بسم الله الرحمن الرحيم

قال الحسن بن علي ظاهري "من لم يعرف حديث رسول الله ﷺ ولا يميز بين صحيحه وسقيمه فليس بعالم"

# مصطلح الحديث

# မွတ်ဆွ်သွလေ့ဟုလ်ဟဒီးဆ်


စီစဉ်ရေးသားသူ

(ဝဏ္ဏကျော်ထင် အလ်လာမဟ် မောင်လာနာ ဟာဖိဇ် စိုက်ယ်ယိဒ် ဟစန်ရှားဟ်)

၏ သား

**အလ်မွတ်က်ရီ မောင်လာနာ ဟာဖိဇ် ကာရီ စိုက်ယ်ယိဒ် မုဟမ္မဒ်ရှားဟ်**

အခန်း (၁၉) ရန်ကုန်–မန္တလေးလမ်း ၊ တောင်မြင့် ၊ မန္တလေးမြို့။

بِسۡمِ ٱللَّهِ ٱلرَّحۡمَٰنِ ٱلرَّحِيمِ

## စကားချီး

အစ္စလာမ်သည် တန်ခိုးတော်အပေါင်း၊ ဥာဏ်တော်အပေါင်းနှင့် ပြည့်စုံတော်မူသော၊ စကြာဝဠာအဝှန်းကို စတင်ဖန်ဆင်းပြုစုပျိုးထောင် မွေးမြူစောင့်ရှောက်တော်မူသော၊ တစ်ဆူတည်းတစ်ပါးတည်း တည်ရှိတော်မူသော၊ တုဖက်ယှဉ်ပြိုင်ဖက်မရှိသော အလ္လာဟ်အသျှင်မြတ်၏ သာသနာ ဖြစ်ပေသည်။ သို့ဖြစ်ရာ အစ္စလာမ်သည်ပြည့်စုံသည်၊ သဘာဝကျသည်။ ဤသည်ကား ကမ္ဘာ့သမိုင်းတွင် လက်တွေ့အထင်အရှားပင်။

အစ္စလာမ်သာသနာကို နားလည်သဘောပေါက်နိုင်ရန်အတွက် ကျမ်းတော်မြတ်ကုရ်အာန်ကိုလည်းကောင်း၊ ဟဒီးဆ် တမန်တော်မြတ်၏ ဩဝါဒတော်များကိုလည်းကောင်း၊ တမန်တော်မြတ်၏ စီရတ် အတ္ထုပ္ပတ္တိကိုလည်းကောင်း နားလည်ရမည်ဖြစ်သည်။

တမန်တော်မြတ်၏ ဩဝါဒတော်များကိုလည်းကောင်း၊ ဆွဟာဗဟ် သာဝကကြီးများနှင့် သာဗေ့အီမျာ၏ မြွက်ကြားချက်များကိုလည်းကောင်း၊ အတိတ်ခေတ်ရှိ မွတ်စ်လင်မ်သုခမိန်ကြီးများသည် ဒုက္ခအမျိုးမျိုးခံ၍ ဓေ့နှစ္စာရှာဖွေ၍ မည်သို့မည်ပုံမှတ်သားခဲ့ကြသည်၊ မည်သို့မည်ပုံထိန်းသိမ်းခဲ့ကြသည်၊ မည်သို့သောစည်းကမ်းချက်များ သတ်မှတ်ခဲ့ကြသည်၊ မည်သို့သော အခေါ်အဝေါ်အသုံးအနှုန်းများကိုသတ်မှတ်ခဲ့ကြသည် စသည်တို့အား အထူးသိအပ်ပေသည်။

တမန်တော်မြတ်၏ ဩဝါဒတော်များနှင့်စပ်လျဉ်းသော အခေါ်အဝေါ်အသုံးအနှုန်းများကို မြန်မာစာပေကိုသာ သိရှိကြကုန်သော မြန်မာမွတ်စ်လင်မ်ပုဂ္ဂိုလ်မွန်ပုဂ္ဂိုလ်မြတ်များနှင့် သာသနာ့စာပေကို လေ့လာသင်ယူဆည်းပူးနေကြသော ကျောင်းတော်သူ၊ ကျောင်းတော်သားများ သိရှိနိုင်ကြစေရန်အလို့ငှာ၊ ကျစ်လစ်ခိုင်မာသော ကျမ်းများမှကောက်နုတ်၍ 'မွတ်စ်ဆွဲသွလေ့ဟုလ်ဟဒီးဆ်' ဟူသော အမည်နာမသမုတ်လျက် မြန်မာစာပေဖြင့်စီစဉ်ရေးသားပြီး လိုအပ်သည့်နေရာများတွင်လည်း မူရင်းအရဗီစာပိုဒ်များကိုပါ ထည့်သွင်းကိုးကားဖော်ပြထားပါသည်။

ထိုသို့ပြန်ဆိုစီစဉ်ရေးသားရာတွင် ကိုယ်စွမ်းဉာဏ်စွမ်းရှိသမျှ ကြိုးစားခဲ့ပါသည်။ အမှေ့အမှားတစ်စုံတစ်ရာတွေ့ရှိပါက ကျေးဇူးပြု၍ပြင်ဆင်ဖတ်ရှုကြပါရန်နှင့် အပြုသဘောဆောင်ကာ ပြုပြင်ပေးမည်ဆိုပါကလည်း ဝမ်းပမ်းတသာကြိုဆိုလျက်ရှိပါကြောင်း ကြိုတင်မေတ္တာရပ်ခံ ပန်ကြားအပ်ပါသည်။

ဤသို့စီစဉ်ရေးသားခွင့်ရရှိသော အလ္လာဟ်အရှင်မြတ်၏ကျေးဇူးတော်ကြောင့် အကျွန်ုပ်သည်အသျှင်မြဘ်၏ချစ်လှစွာသော မြတ်တမန်တော်၏ စစ်မှန်သောတပည့်သားတစ်ဦး ဖြစ်ရပါစေသတည်း။

လေးစားစွာဖြင့်......

ကာရီမုဟမ္မဒ်ရှားဟ်
တောင်မြင့်၊ မန္တလေးမြို့။

## မာတိကာ

# မာတိကာ



## ❧❧❧ အခန်း(၁) ❧❧❧

حامدًا و مصليًا و مسلمًا

တမန်တော်မြတ် ﷺ ၏ 'ဟဒီးဆ်' ဩဝါဒတော်များကို မည်သို့မည်ပုံမှတ်သားခဲ့ကြသည် မည်သို့မည်ပုံ စုဆောင်းထိန်းသိမ်းခဲ့ကြသည်၊ မည်သို့သောစည်းကမ်းချက်များ သတ်မှတ်ခဲ့ကြသည်၊ မည်သို့သော အခေါ်အဝေါ်အသုံးအနှုန်းများကို သတ်မှတ်ခဲ့ကြသည် စသည်တို့နှင့်သက်ဆိုင်သော အခြေခံအချက်အလက်များကို အထူးသိထားအပ်ပေသည်။

## الحديث အကြောင်း

**الحديث** -'ဟဒီးဆ်' ဟူသည် အရဗီစာပေဝေါဟာရအရ **واحد** 'ဝါဟစ်ဒ်'(ဧကဝုစ်ကိန်း) ဖြစ်ပြီး၊ **جمع** 'ဂျမအ်'(ဗဟုဝုစ်ကိန်း)သည် (**على خلاف القياس**) နှိုင်းယှဉ်ချက်မဲ့ဥပဒေအရ **أحاديث** 'အဟာဒီးဆ်' ဖြစ်သည်။

**حديث** -'ဟဒီးဆ်'၏ အနက်အဓိပ္ပာယ်သည် **لغة** 'လိုဂသန်' အဘိဓာန်အရ- **الجديد** သစ်သော၊ သစ်လွင်ဆန်းပြားသော **الخبر** -သတင်းစကား၊ သတင်းပေးခြင်း၊ အသိပေးခြင်း ဟူ၍ဖြစ်ပေသည်။ ဤသည့်အပြင် အခြားသော အဓိပ္ပာယ်များ၌လည်း အသုံးရှိချေ၏။

**اصطلاحا** -ဩဝါဒတော်များနှင့်စပ်လျဉ်းသော အသုံးအနှုန်းပညာရပ်တွင် **حديث** 'ဟဒီးဆ်' ဟူသည်မှာ-

ما أضيف الى النبى ﷺ من قول أو فعل أو تقرير أو صفة

**قول** ဖြစ်စေ၊ **فعل** ဖြစ်စေ၊ **تقرير** ဖြစ်စေ၊ **صفة** ဖြစ်စေ တမန်တော်မြတ် ﷺ သခင်၏ဘက်သို့ ဆက်နွယ်သမှုပြုခံရခြင်းကို ခေါ်သည်။

**တမန်တော်မြတ်ﷺ ၏ရှေ့နုတ်တော်မှ မြွက်ကြားတော်မူချက်ကို قَوْل** ဟူ၍လည်းကောင်း၊ တမန်တော်မြတ်ﷺ ၏ လုပ်ဆောင်တော်မူချက်ကို فِعْل ဟူ၍ လည်းကောင်း ခေါ်ဝေါ်သုံးနှုန်းသည်။ တမန်တော်မြတ်၏ရှေ့တွင် ဆွဟာဗီသာဝကတစ်ပါးပါးသည် တစ်စုံတစ်ရာပြောကြားခြင်း(သို့) ပြုမူလုပ်ဆောင်ခြင်းကို တမန်တော်မြတ်သည် သိရှိတော်မူပါလျက် သတိပေးတားမြစ်ခြင်းပြုတော်မမူပဲ၊ ထိုသည်အတိုင်းပင်ထားတော်မူလျှင်၊ ထိုသည်ကို تقرير ဟူ၍သုံးနှုန်းခေါ်ဝေါ်သည်။ တမန်တော်မြတ်ﷺသခင် အိပ်စက်အနားယူတော်မူနေစဉ်တွင်လည်းကောင်း၊ နိုးကြားလျက်ရှိတော်မူစဉ်အခါတွင်လည်းကောင်း၊ လှုပ်ရှားသွားလာနေထိုင်စားသုံးတော်မူပုံကို လည်းကောင်း၊ ရုပ်အဆင်းသဏ္ဍာန်တော်ကိုလည်းကောင်း စသည့်ဂုဏ်ပုဒ်တော် အလုံးစုံတို့ကို صِفَت ဟူ၍ သုံးနှုန်းခေါ်ဝေါ်သည်။

(**الصحابى** နှင့် **الصاحب** စာလုံးသည် ဧကဝုစ်ကိုန်းဖြစ်ပြီး၊ **الأصحاب** သည် ဗဟုဝုစ်ကိန်းဖြစ်သည်။)

**الصحابى** –'ဆွဟာဗီ' ဆိုသည်မှာ **لغة** 'အဘိဓာန်'အရ–အတူသွားလာနေထိုင်သူ၊ အပေါင်းအဘော် ဟူ၍ဖြစ်ပေသည်။

**اصطلاحا** အသုံးအနှုန်းတွင်(من لقى النبى صلى الله عليه وسلم مسلما و مات على الاسلام) အီမာန်ရှင်အဖြစ်နှင့် တမန်တော်မြတ်ﷺအား ဖူးတွေ့ခဲ့ရသူဖြစ်ပြီး၊ အီမာန်ရှင်အဖြစ်နှင့်ပင် ကွယ်လွန်သည်ဖြစ်သော်၊ ထိုသို့သောပုဂ္ဂိုလ်ထူး ပုဂ္ဂိုလ်မြတ်ကို ခေါ်ဝေါ်သည်။

**الصحابة** ဟူသောစာလုံးကို အသုံးများသည်။ **الأصحاب** စာလုံး၏အဓိပ္ပာယ်ပင်ဖြစ်၏။ (ဆွဟာဗီသာဝကများ)

တမန်တော်မြတ်ﷺသခင်၏ 'ဆွဟာဗဟ်' တပည့်သာဝကများသည် **عادل** 'အာဒိလ်'များဖြစ်ကြပေ၏။ မဟုတ်မမှန်သော အကြောင်းအရာကိစ္စရပ်များအား အဘယ်သောအခါ၌မျှ လုပ်ကြံဖန်တီး၍ တမန်တော်မြတ်ﷺ၏ဘက်သို့ အလျဉ်းလုံးဝ ဆက်စပ်ပြောဆိုလေ့မရှိကြပေ။ ဥပမာ– တမန်တော်မြတ်ﷺသခင် မြွက်ကြားတော်မူခြင်းမရှိသော ကိစ္စရပ်ကိုတမန်တော်မြတ်ﷺသခင်က ဤသို့မိန့်မြွက်တော်မူပါသည် ဟူ၍လိမ်လည်ပြောဆိုလေ့ အလျဉ်းလုံးဝမရှိကြချေ။ သို့သာမက အလွန်ဖြောင့်မတ်တည်ကြည်ကြသူများသာ ဖြစ်ကြပေ၏။

**التابعى** –'သာဗေ့အီ'၊ **التابع** စာလုံးသည် ဧကဝုစ်ကိန်းဖြစ်ပြီး၊ ဗဟုဝုစ်ကိန်းမှာ– **التابعون** ဖြစ်၏။ အဓိပ္ပာယ်မှာ– **لغة** အဘိဓာန်အရ– နောက်လိုက်နောက်ပါ၊ နောက်လိုက်တပည့်၊ နောက်မှလျှောက်လှမ်းလိုက်ပါသူ ဟူ၍ဖြစ်ပေ၏။

**اصطلاحا** –အသုံးအနှုန်းတွင် هو من لقى صحابيا مسلما و مات على الاسلام အီမာန်ရှင် (မွတ်စ်လင်မ်) အဖြစ်နှင့် 'ဆွဟာဗီ' သာဝကကြီးတစ်ပါးပါးအားဖူးတွေ့ခဲ့ရသူ ဖြစ်ပြီး၊ မွတ်စ်လင်မ်အဖြစ်နှင့်ပင် ကွယ်လွန်သည်ဖြစ်သော်၊ ထိုသို့သောပုဂ္ဂိုလ် မွန်ပုဂ္ဂိုလ်မြတ်ကို 'သာဗေ့အီ' ဟူ၍သုံးနှုန်းခေါ်ဝေါ်သည်။

**المخضرمون** 'အလ်မုခသွ်ရမူးန်' စာလုံးသည် ဗဟုဝုစ်ကိန်း ဖြစ်သည်။ ဧကဝုစ်ကိန်းသည် **مخضرم** 'မုခသွ်ရမွန်' ဖြစ်သည်။

**لغة** အဘိဓာန်အရ ခသ်နာမလုပ်သေးသူ ဟူ၍အဓိပ္ပာယ်ရသည်။

المخضرم - من لم يختتن

**اصطلاحا** –အသုံးအနှုန်းတွင် ထိုသို့သောသူကိုခေါ်ဝေါ်သည်။ ယင်းသူသည် တမန်တော်မြတ်၏ခေတ်ကိုလည်းကောင်း၊ တမန်တော်မပွင့်ပေါ်မီခေတ်ကို လည်းကောင်း ကြုံတွေ့သိမီခဲ့သူ(ရှေးမီနောက်မီ) ဖြစ်သော်ငြားလည်း တမန်တော်မြတ်အား မဖူးတွေ့ခဲ့ရပေ။

هو الذى أدرك الجاهلية وزمن النبى ﷺ ولم يره و المخضرمون من التابعين على الصحيح

'မုခတ်သွ်ရမူးန်' သည် ဆွဟီးဟ်ဖြစ်သောအဆိုအရ သာဗေ့အီများထဲမှပင်ဖြစ်၏။ ဆိုလိုသည်မှာ–ယင်းသူတို့သည် တမန်တော်မြတ်သက်တော်ထင်ရှားရှိနေတော်မူစဉ်အချိန်ကပင် အီမာန်ယူခဲ့သည်ဖြစ်စေ၊ တမန်တော်မြတ် မရှိတော့သည့်နောက်ပိုင်းခေတ်တွင်မှာ အီမာန်ယူခဲ့ သည်ဖြစ်စေ၊ ၎င်းတို့သည် သာဗိအီများပင်ဖြစ်၏။

وعدد المخضرمين نحو عشرين شخصا - كما عدهم الامام مسلم

အီမာမ် မွတ်စ်လင်မ်ရေတွက်ယူဆသကဲ့သို့ပင် မုခတ်သွ်ရမီးန်များ၏ အရေအတွက်သည် နှစ်ဆယ်(၂၀)နီးနီးခန့်ရှိမည်ဟုယူဆ၏။

و الصحيح أنهم اكثر من ذلك ـ و منهم ابو عثمان النهدى ـ و الاسود ابن يزيد النخعى

ဆွဟီးဟ် ဖြစ်သောအဆိုပြုချက်မှာ ၎င်းတို့သည် ထိုအရေအတွက်ထက်ပိုမိုများပြား၏။ ထိုသူများထဲတွင် 'အဗူအွတ်စ်မာန် နဟ်ဒီ' နှင့် 'အတ်စ်ဝဒ်ဗင်န် ယဇီးဒ်နခအီ' တို့လည်းအပါအဝင်ဖြစ်၏။

**تبع التابعى** –ဆိုသည်မှာ ထိုသို့သောအီမာန်ရှင်ကိုခေါ်ဝေါ်သည်။ ယင်းသူသည် သာဗေ့အီကိုတွေ့ဖူးခဲ့၏။

**تابع تبع تابعى** –ဆိုသည်မှာ သဗအ်သာဗေ့အီကိုတွေ့မြင်ခဲ့ဖူးသောအီမာန်ရှင်ကိုခေါ်ဝေါ်သည်။

الحديث اقوال النبى ﷺ و افعاله تقرير اته

အချို့သော မုဟဒ်ဒိစ်(ဟဒီးဆ်သုတေသီပညာရှင်)များက 'ဟဒီးဆ်' ဟူသောစာလုံး၏ အနက်အဓိပ္ပာယ်အားကျယ်ဝန်းစေလျက် 'ဆွဟာဗီ' နှင့် 'သာဗေ့အီ' သခင်ကြီးများ၏ **قول فعل** . **تقرير** တို့ကိုလည်း 'ဟဒီးဆ်' ဟူ၍ထည့်သွင်း အသုံးပြုကြပေ၏။ သို့ဖြစ်ရာ 'ဟဒီးဆ်' သည် အမျိုးအစား သုံး(၃)မျိုး ဖြစ်သွားပေမည်။

(၁) **المرفوع** (၂) **الموقوف** (၃) **المقطوع**

**(၁) المرفوع** ဆိုသည်မှာ 'အိစ်မေ့မဖ့်အူလ်' စာလုံးဖြစ်ပြီး၊ ကေဝုစ်ကိန်းဖြစ်သည်။

**لغة** –အဘိဓာန် အဓိပ္ပာယ်အရ မြှောက်တင်ခံရသူ၊ မ'တင်ခြင်းခံရသူ၊ ချီမခြင်းခံရသူ စသည်ဖြင့်ဟူ၍ရပေ၏။

سمى بذلك لنسبته الى صاحب المقام الرفيع و هو النبى ﷺ

(ဤဟဒီးဆ်သည်) မြင့်စွင့်သော (မြင့်မြတ်သော) နေရာဌာန၏ပိုင်ရှင်ဘက်သို့ ဆက်စပ်လျက်ရှိနေသည့်အတွက်ကြောင့် ဤသို့('မရ်ဖူးအ်'ဟူ၍) အမည်နာမသမုတ်ထားရခြင်းဖြစ်ပေ၏။

**اصطلاحا** အသုံးအနှုန်းတွင်–'မရ်ဖူးအ်' ဆိုသည်မှာ–

ما أضيف الى النبى ﷺ من قول أو فعل أو تقرير أو صفة ကိုခေါ်ဝေါ်သည်။

အဓိပ္ပာယ်စာမျက်နှာ(၁)တွင်ဖော်ပြခဲ့ပေပြီ။

သို့ဖြစ်ရာ မရ်ဖူးအ်(ဟဒီးဆ်)သည် အောက်ပါအတိုင်း(၄)မျိုးဖြစ်သွားပေမည်။

(က) **المرفوع القولى** (မရ်ဖူးအ်ကောင်ဝ်လီ) (ခ) **المرفوع الفعلى** (မရ်ဖူးအ်ဖေ့အ်လီ)

(ဂ) **المرفوع التقريرى** (မရ်ဖူးအ်သပ်က်ရီရီ) (ဃ) **المرفوع الوصفى** (မရ်ဖူးအ်ဝဆွ်ဖီ)

## (က) المرفوع القولى

**المرفوع القولى** 'မရ်ဖူးအ်ကောင်လီ' ဆိုသည်မှာ ဆွဟာဗီသာဝက တစ်ပါးပါးက(သို့) အခြားပုဂ္ဂိုလ်တစ်ဦးဦးကဖြစ်စေ 'တမန်တော်မြတ် ﷺ သည် ဤသို့.......... မိန့်မြွက်တော်မူပါသည်' ဟူ၍ပြောကြားသော ဟဒီးဆ် ကိုခေါ်သည်။ ဥပမာ-

أن يقول الصحابى أو غيره ( قال رسول الله صلى الله عليه وسلم كذا. . . . . . )

## (ခ) المرفوع الفعلى

**المرفوع الفعلى** 'မရ်ဖူးအ်ဖေ့အ်လီ' ဆိုသည်မှာ ဆွဟာဗီသာဝက တစ်ပါးပါးကဖြစ်စေ(သို့) ဆွဟာဗီမဟုတ်သူတစ်ဦးဦးကဖြစ်စေ ဤသို့ပြောကြားအံ့ 'တမန်တော်မြတ် ﷺ သည် ဤသို့ပြုမူဆောင်ရွက်တော်မူပါသည်' ဟူသော ဟဒီးဆ်ကိုခေါ်ဝေါ်သည်။ ဥပမာ-

أن يقول الصحابى أو غيره (فعل رسول الله صلى الله عليه وسلم كذا . . . . . )

## (ဂ) المرفوع التقريرى

**المرفوع التقريرى** 'မရ်ဖူးအ်သပ်က်ရီရီ' ဆိုသည်မှာ ဆွဟာဗီသာဝက တစ်ပါးပါးကလည်းကောင်း(သို့တည်းမဟုတ်) အခြားပုဂ္ဂိုလ် တစ်ဦးဦးကလည်းကောင်း 'တမန်တော်မြတ် ﷺ ၏ရှေ့တော်၌ ဤသို့ဤပုံလုပ်ဆောင်ပါသည်'ဟုပြောကြားသော'ဟဒီးဆ်'ကိုခေါ်ဝေါ်သည်။ ထိုသို့ပြုမူလုပ်ဆောင်ခြင်းကို'တမန်တော်မြတ် ﷺ သည် တားမြစ်တော်မူပါသည်၊ ဟန့်တားတော်မူပါသည်' ဟူ၍လည်းဆက်လက်ပြောကြားခြင်း မရှိခဲ့သော်။ ဥပမာ-

أن يقول الصحابى أو غيره (فعل بحضرة النبى ﷺ كذا . . . . . )
ولا يروى انكاره لذلك الفعل

## (ဃ) المرفوع الوصفى

**المرفوع الوصفى** 'မရ်ဖူးအ်ဝဆွ်ဖီ' ဟူသည်မှာ ဆွဟာဗီသာဝကကြီးတစ်ပါးပါးကဖြစ်စေ၊ဆွဟာဗီမဟုတ်သူ တစ်ဦးဦးကဖြစ်စေ၊ တမန်တော်မြတ် ﷺ ၏ ဝိသေသဂုဏ်ပုဒ်တော်များနှင့်စပ်လျဉ်း၍ ပြောကြားသော'ဟဒီးဆ်'တော်ကိုခေါ်ဆိုပါသည်။ ဥပမာ-

أن يقول الصحابى او غيره (كان رسول الله ﷺ)
احسن الناس خلقا

တမန်တော်မြတ် ﷺသည် လူသားတို့ အနက်သဘောသကာယ အကောင်းမွန်ဆုံးဖြစ်တော်မူ၏။

## الموقوف
## ဟဒီးဆ် (၃)မျိုးအနက်မှ ဒုတိယအမျိုး

**الموقوف** 'အလ်မောင်ဝ်ကူးဖ်' သည်ဧကဝုစ်ကိန်းဖြစ်၏။

**لغة** 'အလ်မောင်ဝ်ကူးဖ်' သည် **الوقف** ဟူသော ပုဒ်မှဆင်းသက်လာသော 'အစ်မေမဖ်အူးလ်' စာလုံးဖြစ်သည်။ အဘိဓာန်အရ ရပ်စဲခြင်း၊ ရပ်တန့်ခြင်းခံရသူဟူ၍ ဖြစ်ပေသည်။

كان الراوى وقف بالحديث عند الصحابى

'ဟဒီးဆ်'ကို ရိဝါယသ်ပြုသူသည် (ရိဝါယသ်နှင့် စပ်လျဉ်း၍ ကိုးကားဖော်ပြရာတွင်) ဆွဟာဗီဒ္ဓ အဆုံးသတ်ရပ်ဆိုင်းသွားခြင်းကြောင့်ဖြစ်၏။

**اصطلاحا** 'မောင်ဝ်ကူးဖ်' ဆိုသည်မှာ ဆွဟာဗီ၏(**قول**)'ကောင်ဝ်လ်'၊ (**فعل**) 'ဖေ့အ်လ်'၊ (**تقرير**) 'သပ်ကရီးရ်' ကိုခေါ်သည်။

ما أضيف الى الصحابى من قول او فعل أو تقرير

ဤသည်ကို မောင်ဝ်ကူးဖ် ဟူ၍နာမည်သမုတ်ရခြင်းသည် ။

سمى موقوفا لانه وقف على الصحابة ولم يتجاوز به الى النبى ﷺ

(စနဒ်(ဆရာစဉ်ဆက်)ကိုးကားဖေါ်ပြချက်သည်)တမန်တော်မြတ်ﷺအထိဆက်လက်ကျော်လွန်မသွားပဲ ဆွဟာဗီဒ္ဓသာ ရပ်ဆိုင်းသွားသောကြောင့် ဤသို့အမည်နာမ ခေါ်ဝေါ်သမုတ်ထားခြင်းဖြစ်၏။

သို့ဖြစ်ပေရာ **الموقوف** သည်လည်း **المرفوع** ကဲ့သို့ပင် အောက်ပါအတိုင်း(၃) သုံးမျိုးဖြစ်သွားပေမည်တည်း။

(၁) الموقوف القولى
(၂) الموقوف الفعلى
(၃) الموقوف التقريرى

## (၁) الموقوف القولى

**الموقوف القولى** 'အလ်မောင်ဝ်ကူးဖ္ဖုလ်ကောင်ဝ်လီ' ဆိုသည်မှာ ရာဝီ(ရိဝါယသ်ပြုသူ)က ဆွဟာဗီသည် ဤသို့ပြောကြားပါသည်၊ ဟူ၍ပြောပြသော 'ဟဒီးဆ်' ကိုခေါ်ဝေါ်သည်။ ဥပမာ-

قول الراوى : قال على بن ابى طالب ﷺ : كذا ....

## (၂) الموقوف الفعلى

**الموقوف الفعلى** 'အလ်မောင်ဝ်ကူးဖ္ဖုလ်ဖေ့အ်လီ' ဆိုသည်မှာ ရာဝီ(ရိဝါယသ်ပြုသူ)က မည်သူမည်ဝါ ဆွဟာဗီသည် မည်သို့မည်ပုံပြုမူဆောင်ရွက်ပါသည်၊ ဟူ၍ပြောပြသော 'ဟဒီးဆ်' ကိုခေါ်ဝေါ်ပါသည်။ ဥပမာ-

قول الراوى : (فعل فلان بن فلان كذا ......)

## (၃) الموقوف التقريرى

**الموقوف التقريرى** 'အလ်မောင်ဝ်ကူးဖ္ဖုလ်သပ်က်ရီရီ' ဆိုသည်မှာ သာဗေအီ တစ်ပါးပါးက ကျွန်ုပ်သည်မည်သူမည်ဝါဆွဟာဗီ၏ ရှေ့၌ ဤသို့ဤပုံပြုလုပ်ဆောင်ရွက်ရာယင်းဆွဟာဗီသည် ကျွန်ုပ်၏ပြုမူချက်အား တစ်စုံတစ်ရာတားမြစ်ခြင်း၊ ဟန့်တားခြင်း၊ ငြင်းပယ်ခြင်း၊ ပြစ်တင်ဝေဖန်ရှုတ်ချခြင်းမပြုပါဟု ပြောပြသော 'ဟဒီးဆ်' ကိုခေါ်ဝေါ်သည်။ ဥပမာ-

كقول بعض التابعين مثلا (فعلت كذا أمام أحد الصحابة ولم ينكر على)

ဆွဟာဗီ မဟုတ်သူထံမှ ဆင့်ပြန်ချက်များ၌လည်း စည်းကမ်းချက်များသတ်မှတ်၍ 'မောင်ဝ်ကူးဖ့်' အမည်နာမဖြင့်ပင် အသုံးပြုကြသေး၏။

يستعمل اسم الموقوف فيما جاء عن غير الصحابة لكن مقيدا
فيقال مثلا (هذا حديث وقفه فلان على الزهرى أو على عطاء)

နုဟ်ရီနှင့် အသွာအ် နှစ်ဦးစလုံး သာဗေ့အီများဖြစ်ကြပေ၏။

ခိုရာစာန်မှ ဖေကဟ်ပညာရှင်ကြီးများက **المرفوع** မရ်ဖူးအ်ဟဒီးဆ် ကို **خبر** ခဗရ် ဟူ၍လည်းကောင်း၊ **الموقوف** မောင်ဝ်ကူးဖ်ဟဒီးဆ် ကို **اثر** အဆရ်ဟူ၍လည်းကောင်း၊ အမည်နာမသမုတ်၍ ခေါ်ဝေါ်ကြ၏။

**يسمى فقهاء خراسان – المرفوع : خبرا * والموقوف : أثرا**

သို့ရာတွင်လည်း မုဟဒ္ဒစ်ဆ်(ဟဒီးဆ်ပညာရှင်ကြီး)များက **اثر** အဆရ် ဟူ၍ပင် အမည်နာမသမုတ်၏။ အဘယ့်ကြောင့်ဆိုသော် ထိုပုဂ္ဂိုလ်တို့၏ (ဆွဟာဗီများ၏) [illegible] ဖေါ်ပြချက်များမှ ရယူထားခြင်းဖြစ်သောကြောင့်တည်း။ ဆိုလိုသည်ကထိုသူတို့၏ ရိဝါယာသ်များ ကိုရယူထားခြင်းကြောင့်တည်း။

أما المحدثون فيسمون كل ذلك (أثرا) لأنه مأخوذ من أثر الشيئ أى روايته

## ꩜꩜ المقطوع ꩜꩜

## ဟဒီးဆ်အမျိုးအစား(၃)မျိုးမှတတိယအမျိုး

**المقطوع** — 'အလ်မတ်က်သူးအ်' သည် ကေဝုစ်ကိန်းဖြစ်၏။

**لغة** — 'အလ်မတ်က်သူးအ်' သည် **قطع** ဟူသောပုဒ်မှ ဆင်းသက်လာသော 'အိစ်မေ့ မတ်ဖ့်အူးလ်' စာလုံးဖြစ်ပြီး၊ အဘိဓာန်အရ ဖြတ်ခြင်း၊ ပိုင်းခြင်း၊ ဖြတ်တောက်ခံ ရသူ ဟူ၍ဖြစ်ပေသည်။

**اصطلاحا** — အသုံးအနှုန်းအရ 'အလ်မတ်က်သူးအ်' ဆိုသည်မှာ **قول** ဖြစ်စေ၊ **فعل** ဖြစ်စေ၊ သာဗေအီ မဟုတ်သူဘက်သို့ ဆက်နွယ်သမ္မုပြုခံရခြင်းကို ခေါ်ဝေါ် ပါသည်။ (တစ်နည်း) သာဗေအီ၏ ကောင်ဝ်လ်၊ ဖေ့အ်လ်၊ သပ်က်ရီးရ် ကို ခေါ်ပါသည်။

ما اضيف الى التابعى أو من دونه من قول أو فعل

'မတ်က်သူးအ်' ဟူ၍ အမည်နာမသမုတ်ရခြင်းသည်-

سمی مقطو عالانه قطع عن الصحابی

(စနဒ် (ဆရာစဉ်ဆက်) ကိုးကားဖေါ်ပြချက်သည်) ဆွဟာဗီအထိ ဆက်လက်မရောက်ရှိပဲ၊ သာဗေအီဠိသာ အဆက်ပြတ်သွားသောကြောင့် ဤသို့အမည်နာမ ခေါ်ဝေါ်သမုတ်ထားခြင်းဖြစ်ပေ၏။

သို့ဖြစ်ပေရာ **المقطوع** သည်လည်း **المرفوع** နှင့် **الموقوف** ကဲ့သို့ပင် အောက်ပါအတိုင်း(၃)မျိုး ဖြစ်သွားပေမည်တည်း။

(၁)**المقطوع القولی**
(၂)**المقطوع الفعلی**
(၃)**المقوع التقریری**

'ဟဒီးဆ်' အမျိုးအစား(၃)မျိုးဖြစ်သော **المرفوع** - **الموقوف** - **المقطوع** တို့ကို **اثر** ဟုလည်းခေါ်ဝေါ်ပါသည်။

အကြင် 'ဟဒီးဆ်' ၏ စနဒ်သည် တမန်တော်အထိရောက်သော် **المرفوع** မည်၏။

အကြင် 'ဟဒီးဆ်' ၏ စနဒ်သည် ဆွဟာဗီအထိရောက်ရှိသော် **الموقوف** မည်၏။

အကြင် 'ဟဒီးဆ်' ၏ စနဒ်သည် သာဗေအီဠိအဆုံးသတ်သော် **المقطوع** မည်၏။



## အခန်း(၂)

## 'ဟဒီးဆ်' ကို 'ဟဒီးဆ်' ဟုသုံးနှုန်းရခြင်းအကြောင်း

'ဟဒီးဆ်' ဟူသော စကားလုံးနှင့်စပ်လျဉ်း၍ အဘိဓာန်အား လေ့လာသုံးသပ်ဆင်ခြင်ရခြင်းဖြင့် စကားရပ်တိုင်းကိုခေါ်ဝေါ်သုံးနှုန်းပေ၏။ 'အိဆ္ဆွိလာဟ်' အသုံးအနှုန်းတွင် တမန်တော်မြတ်(ဆွ)၏ ဩဝါဒတော်များကို 'ဟဒီးဆ်' ဟူသောစကားလုံးဖြင့် သီးသန့်ခေါ်ဝေါ်အသုံးပြုကြပေ၏။ ထိုသို့အသုံးပြုရခြင်းသည်လည်း၊ တမန်တော်မြတ်(ဆွ)ကိုယ်တော်တိုင် 'ဟဒီးဆ်' ဟူသောစကားကို သုံးနှုန်းတော်မူခဲ့ခြင်းကြောင့်လည်းဖြစ်ပေ၏။ ဥပမာ–ကိုယ်တော်မြတ်၏ မိန့်မြွက်တော်မူချက်တွင် **'حدثوا عني'** 'ဟဒ်ဒေ့ဆွူးအန်းနီ' ဟူ၍လည်းကောင်း၊ **أربعين حديثا** 'အရ်ဗအီးနဟဒီးစန်' ဟူ၍လည်းကောင်း၊ စသည်ဖြင့် သုံးနှုန်းထားတော်မူပေ၏။

ဟာဖိဇ်အစ်ဗ်နဟဂျ်ရ် 'အတ်စ်ကလာနီ' (ရဟ်)က ဖုသ်ဟုလ်ဗါရီ ရှရဟ်ဆွဟီးဟ်ဗုခါရီကျမ်းတွင်လည်းကောင်း၊ အလ္လာမဟ် စခါဝီ (ရဟ်)က ဖုသ်ဟုလ်မုဂီးဆ်ကျမ်းတွင်လည်းကောင်း၊ ထို့အတူ အလ္လာဟ်မဟ် ဂျလာလွဒ္ဒီးန် စုယူတွီ(ရဟ်) သခင်ကလည်းကောင်း၊ ဟဒီးဆ်၏ အနက်အဓိပ္ပာယ်သည် **حادث** 'ဟာဒိဆ်' **جديد** 'ဂျဒီးဒ်' ဖြစ်၏၊ ကုရ်အာန်ကျမ်းတော်မြတ်သည် **قديم** 'ကဒီးမ်' ဖြစ်၏၊ သို့ဖြစ်ရာ ထိုသည်တို့အား နှိုင်းယှဉ်ရခြင်းဖြစ်သည်ဟု အနက်ဖွင့်၏။ သို့သော်လည်း ဤသည်အလွန်အလုမ်းဝေးလှပေ၏။

ဆွဟီးဟ်မွတ်စ်လင်မ်ကျမ်း၏ ရှရဟ်ကျမ်းဖြစ်သော ဖုသ်ဟုလ်မုလ်ဟင်မ်ကျမ်း၏ မုကဒ္ဒမဟ်ဖြစ်သော နိဒါန်းတွင် အလ္လာမဟ် ရှဗီးရ်အဟ်မဒ်အွတ်စ်မာနီ(ရဟ်) သခင်က **حديث** ၏အဓိပ္ပာယ်သည် **خبر** 'ခဗရ်' ဖြစ်၏၊ ဤစကားလုံးအား အလ္လာဟ်အရှင်မြတ်၏ မြွက်ကြားချက်ဖြစ်သော ' **وأما بنعمة ربك فحدث** ' ဟူသော အာယသ်တော်အသုံးအနှုန်းမှ ရယူထားခြင်းဖြစ်ပေသည်ဟု အနက်ဖွင့်ဆို၏။ ယင်းနှင့်စပ်လျဉ်း၍ အကျယ်တဝင့်ကို အောက်ပါအတိုင်းဖွင့်ဆို၏။

မြင်မြတ်တော်မူသော အလ္လာဟ်အရှင်မြတ်သည် တမန်တော်မြတ်အား ချီးမြှင့်ပေးသနားထားတော်မူသော နိအ်မသ်တော်သုံးပါးနှင့်စပ်လျဉ်း၍ စူရာသွိုဟာ နေတက်ချိန်ကဏ္ဍတွင် ဤသို့ ထုတ်ဖော်မိန့်ကြားထားတော်မူသည်။

اَلَمْ يَجِدْكَ يَتِيْمًا فَاٰوٰى (၁)

وَوَجَدَكَ ضَاۤلًّا فَهَدٰى (၂)

وَوَجَدَكَ عَاۤئِلًا فَاَغْنٰى (၃)

အဓိပ္ပာယ်–

(၁) ထိုအရှင်မြတ်သည် အသင့်အားမိဘမဲ့အဖြစ် တွေ့ရှိတော်မူခဲ့၍ ခိုကိုးရာပေးတော်မူခဲ့သည်မဟုတ်လော။

(၂) ထိုအရှင်မြတ်သည် အသင့်အားလမ်းမပေါက်သူအဖြစ် တွေ့ရှိတော်မူခဲ့ရာ လမ်းညွှန်တော်မူခဲ့၏။

(၃) ထိုအရှင်မြတ်သည် အသင့်အားပစ္စည်းမဲ့အဖြစ် တွေ့ရှိတော်မူခဲ့ရာ ဥစ္စာပစ္စည်းကြွယ်ဝစေတော်မူခဲ့၏။

အလ္လာဟ်အရှင်မြတ်သည် အထက်ပါအတိုင်း တမန်တော်မြတ်အား နိအ်မသ်တော်များကို ချီးမြှင့်တော်မူခဲ့၏။ ယင်းနိအ်မသ်တော်များကို စောင့်သိရှိသေရန်အတွက် အမိန့်တော်သုံးပါးကို ထုတ်ပြန်ချမှတ်တော်မူ၏။

(၁) **ايواء** 'ခိုကိုးရာ' ပေးတော်မူခြင်းနှင့်အညီ **فأما اليتيم فلا تقهر** (သို့ဖြစ်ပေရာ အသင်သည် မိဘမဲ့ကလေးသူငယ်အားဖိနှိပ် (ကြိမ်းမောင်း) ခြင်းကို မပြုလေနှင့်။) ဟူ၍လည်းကောင်း–

(၂) **هداية** 'လမ်းညွှန်' တော်မူခြင်းနှင့်အညီ **وأما بنعمة ربك فحدث** (ထိုမှတပါး မည်သို့ပင်ဖြစ်စေ၊ အသင်သည် မိမိအားဖန်ဆင်းမွေးမြူတော်မူသော အရှင်မြတ်၏ကျေးဇူးတော်ကို ထုတ်ဖော်ပြောကြားပါလေ။) ဟူ၍လည်းကောင်း၊

(၃) **اغناء** 'ဥစ္စာပစ္စည်းကြွယ်ဝစေတော်မူခြင်း' နှင့်အညီ **وأما السائل فلا تنهر** (ထိုနည်းတူစွာပင်၊ အသင်သည် သူတောင်းစားအား ငေါက်ငမ်းနှင်ထုတ်ခြင်းကို မပြုလေနှင့်) ဟူ၍လည်းကောင်း (အမိန့်ထုတ်ပြန်ချမှတ်တော်မူ၏)။

မြင့်မြတ်တော်မူသော အလ္လာဟ်အရှင်မြတ်၏ အမိန့်တော်ဖြစ်သော **فحدث** 'ဖ္ဟဒ်ဒိဆ်' (ကျေးဇူးတော်များကို ထုတ်ဖော်ပြောကြားပါလေ)ဟူသော ဆိုလိုရင်းအချက်မှာ–အိုတမန်တော် အသင့်အား ငါအရှင်မြတ်သည် 'နဗူဝသ်' တည်းဟူသော **هداية** ကို ချီးမြှင့်တော်မူသည်၊ ကိုဆိုလိုခြင်းဖြစ်၏။

သို့ဖြစ်ပေရာ တမန်တော်မြတ်သည် ထို'နိအ်မသ်'တော်များကို ထုတ်ဖော်မိန့်ကြားတော်မူသည်ဖြစ်ရာ ' **حديث نبوي** 'နဗီတမန်တော်မြတ်၏ ဟဒီးဆ် (နှုတ်မှထွက်သောစကား) သည် **هداية ربانية** 'ဟေဒါယသေ့ရဗ္ဗာနီယဟ်' (ဖန်ဆင်းမွေးမြူတော်မူသောအရှင်မြတ်)၏ လမ်းညွှန်ချက်တရားဒေသနာတော်များအား ထုတ်ဖော်ရှင်းလင်းပြသနေသော **اخبار** သတင်းစကားများသာဖြစ်ပေ၏။

**تحديث** ၏အဓိပ္ပာယ်သည် **اخبار** (သတင်းစကား)၊ **تذكرة** (ထုတ်ဖော်ပြောကြားခြင်း) သာလျှင်ဖြစ်ပေသည်။

# အခန်း (၃)
## علم الحديث 'ဟဒီးဆ်' ပညာအကြောင်း

**علم الحديث** ဟူသည် အကြင်ပညာရပ်ကိုခေါ်ပါသည်။ ယင်းပညာဖြင့် တမန်တော်မြတ်ﷺ၏ **اقوال** 'အတ်ကဝါးလ်'၊ **افعال** 'အဖ့်အားလ်'၊ **احوال** 'အဟ်ဝါးလ်'၊ ကိုလည်းကောင်း၊ ဆွဟာဗဟ်များ၊ သာဗေ့အီများ၏ **اقوال** 'ပြောကြားချက်များ'၊ **افعال** 'ပြုမူလုပ်ဆောင်ချက်များ'၊ **احوال** 'အခြေအနေအရပ်ရပ်' စသည်တို့ကိုသိရှိရပေ၏။

هو علم يشتمل على نقل ما أضيف الى النبى صلى الله عليه وسلم
قولا أو فعلا أو تقرير ا أو صفة أو حالا و على ضبطه و تحرير لفظه

**صفات نبوية** တမန်တော်မြတ်ﷺ၏ ဆွေဖွားသဲတော်(ဂုဏ်ရည်တော်) နှစ်ပါးရှိသည်။
(၁) **جسمانية** - ဂျိစ်မာနီယဟ်
(၂) **روحانية** - ရူဟာနီယဟ်

**(၁) جسمانية** -ဆိုသည်မှာ(ဥပမာ-မွေးဖွားရာ နေရာဒေသ၊ အချိန်အခါကာလ၊ အဆင်အယင်၊ အရပ်အမောင်း၊ ရုပ်ဆင်းအသွင်အပြင်၊ နေထိုင်သွားလာခြင်း၊ စားသုံးခြင်း၊ သောက်သုံးခြင်းစသည့်)(ကိုယ်ခန္ဓာတော်)ရုပ်ပိုင်းဆိုင်ရာ ကိစ္စအဝဝကို ဆိုလိုသည်။

**(၂) روحانيه** -ဆိုသည်မှာ နာမ်ပိုင်းဆိုင်ရာတို့ကိုဆိုလိုသည်။ ဥပမာ-ရက်ရောတော်မူခြင်း၊ ရဲရင့်တော်မူခြင်း၊ ကရုဏာရှိတော်မူခြင်း၊ သနားကြင်နာ ညှာတာတော်မူခြင်း၊ သည်းခံတော်မူခြင်း စသည်များ။

## ဟဒီးဆ်ပညာ၏ အခြေအမြစ်

**موضوع علم حديث** –ဟဒီးဆ် ပညာ၏(မူလအရင်းခံ)အခြေအမြစ်သည် တမန်တော်မြတ်ﷺ၏–(ကောင်ဝ်) (ဖေအ်လ်) (သပ်က်ရီးရ်)များပင်ဖြစ်ပေ၏။ သို့မှုမက တမန်တော်မြတ်ﷺ ကိုယ်တော်တိုင်ပင်လျှင် ဟဒီးဆ်ပညာ၏ မူလအရင်းခံ ဖြစ်ပေ၏။ ယင်းသို့ဖြစ်ရခြင်းသည် လူသားတစ်ဦးဖြစ်ခြင်းကြောင့် မဟုတ်ပါ၊ နဗီရစူလ် ဖြစ်သောကြောင့်သာ ဖြစ်ပေ၏။

أقوال النبى ﷺ و أفعاله و تقريراته
ذات الرسول ﷺ من حيث انه نبى و رسول لا من حيث انه بشر و جسم

တမန်တော်မြတ် နဗီဖြစ်တော်မူပြီးသည့်နောက်၊ (၂၃)နှစ်ဆယ့်သုံးနှစ်တာကာလ ဘ၀သက်တမ်းအား အဓိကဆိုလိုခြင်းဖြစ်၏။ တမန်တော်မြတ်ﷺ၏ ငယ်ရွယ်စဉ်ဘ၀သက်တမ်း၏အကြောင်းအရာ၊ အခြေအနေအရပ်ရပ်သည်လည်း ထိုသည်တွင်ဒွန်တွဲ ပါဝင်လျက်ရှိပေ၏။

## غرض (ဂရ်သို)နှင့် غايت (ဂါယသ်)

**غرض و غاية علم حديث** –ဟဒီးဆ်ပညာ၏ **غرض** 'ဂရ်သို' **غايت** 'ဂါယသ်' နှင့်စပ်လျဉ်း၍ ပညာရှင်ကြီးများက 'ဂရ်သို–ဂါယသ်' ဆိုသည်မှာ ဟဒီးဆ် တော်များကို သင်ပေးသင်ယူပြုသူ များအတွက် ဟဒီးဆ်တော်များတွင်ပါရှိသော ဆုမွန် ဒိုအာများ၊ ထူးကဲမွန်မြတ်မှုများကို ရယူခြင်းပင်ဖြစ်သည်ဟု မိန့်၏။

**غرض و غايت** –ဆိုသည်မှာ 'ရည်ရွယ်ချက်ပန်းတိုင် (သို့) ရည်မှန်းချက်ပန်းတိုင်'ကို ခေါ်ပါသည်။ အလိုသဘောမှာ မိမိ၏ရည်ရွယ်ချက်ကို ပြီးမြောက်အောင်မြင်စေရန် ကြိုးပမ်းအားထုတ်လုပ်ဆောင်၍ မိမိလိုလားရာ ပန်းတိုင်သို့ရောက်ရှိခြင်းကိုဆိုလိုခြင်းဖြစ်၏။

ဂရ်သွ် နှင့် ဂါယသ်သည် ယေဘူယျအားဖြင့် အဓိပ္ပာယ်တူညီလျက်ရှိသော်လည်း အနည်းငယ်ကွာခြားပေ၏။ ဥပမာ–လူတစ်ဦးသည် ဈေးသို့သွား၍ပစ္စည်းဝယ်ယူသည်။ ဤဥပမာတွင် ဈေးသို့သွားခြင်းသည် **غرص** ‘ဂရ်သွ်’ ဖြစ်၍၊ ပစ္စည်းဝယ်ယူခြင်းသည် **غايت** ‘ဂါယသ်’ ဖြစ်ပေသည်။

ထိုနည်းတူစွာပင် အလ္လာဟ်အရှင်မြတ်တားမြစ်တော်မူသော အချက်အလက်များကို ရှောင်ကြဉ်လျက်၊ အလ္လာဟ်အရှင်မြတ်နှစ်သက်သဘောတူတော်မူသော ကိစ္စအဝဝကို နာခံဆောင်ရွက်ပြီး နှစ်ဘဝနှစ်ဌာန(လောကီ–လောကုတ္တရာ) ကောင်းစားရေးသည်သာလျှင် အောင်မြင်မှုပန်းတိုင်ဖြစ်ပေ၏။

هو الفوز بسعادة الدارين بعد العمل على مرضياته
و الكف عن غير مرضياته

## فائدة علم حديث

### ဟဒီးဆ်ပညာ၏(ကျေးဇူးပြုခြင်း) အကျိုးပြုခြင်းအကြောင်း

ဟဒီးဆ်ပညာကို သင်ယူလေ့လာခြင်းဖြင့် ရိဝါယသ်များအား ဆင့်ကဲဆင့်ကဲကူးပြောင်းရာ၌ အမှားအယွင်းလွတ်ကင်းစေခြင်း၊ ကုရ်အာန်ကျမ်းတော်မြတ်၏ သဖ့်စီးရ် (ဋီကာ–အကျယ်ဖွင့်ဆိုချက်) ကိုလည်းကောင်း၊ ရှရီအသ်၏ အမိန့်ပညတ်ချက်များအားလည်းကောင်း၊ ယင်းအမိန့်ပညတ်ချက်များ၏ အကိုးအကား အထောက်အထားများအားလည်းကောင်း သိရှိရပေ၏။

هى معرفة الاحكام الشرعية و دلائلها و تفسير القران الحكيم و العصمة
عن الخطأ فى نقل الروايات

# النسبة بين الحديث والخبر
## ဟဒီးဆ်နှင့် ခဗရ်သည်တစ်ခုနှင့်တစ်ခုဆက်နွယ်မှုရှိခြင်း

ဟဒီးဆ်နှင့် ခဗရ်၏ကြားတွင် ဆက်နွယ်မှုရှိခြင်းနှင့်စပ်လျဉ်း၍ ပညာရှင်ကြီးများ၏မိန့်ဆိုချက်သုံးမျိုးရှိပေသည်။

(၁) ဟဒီးဆ်ပညာရှင်ကြီးအများစုထံ၌ **حديث** 'ဟဒီးဆ်' သည် **خاص** 'ခါးဆ်'(သီးသန့်သုံးသောစကားလုံး)ဖြစ်ပြီး၊ **خبر** 'ခဗရ်' သည် **عام** 'အားမ်' အများသုံးစကားလုံး(သီးသန့်သုံးမဟုတ်သော)ဖြစ်သည်။

ဤမိန့်ဆိုချက်အရ **حديث** ဟဒီးဆ်စကားလုံးကို **مرفوع** 'မရ်ဖူးအ်' များ၌သာသီးသန့်သုံးနှုန်းသည်ဖြစ်ပြီး၊ **خبر** 'ခဗရ်' စကားလုံးကို **مرفوع** 'မရ်ဖူးအ်'၊ **موقوف** 'မောင်ဝ်ကူးဖ့်' **مقطوع** 'မတ်က်သူးအ်' သုံးမျိုးစလုံးတွင် သုံးနှုန်းသည်သာမက အခြားသောအကြောင်းခြင်းရာများတွင်လည်း အသုံးပြုသည်ဖြစ်၏။

فكل حديث خبر و ليس كل خبر بحديث

'ဟဒီးဆ်' တိုင်း 'ခဗရ်' ဖြစ်သည်။ 'ခဗရ်' တိုင်း 'ဟဒီးဆ်' မဟုတ်ပါ။

(၂) အချို့သော ဟဒီးဆ်ပညာရှင်များထံ၌ **حديث** 'ဟဒီးဆ်'နှင့် **خبر** 'ခဗရ်' သည် အဓိပ္ပာယ်တူသည်။ ဆိုလိုသည်က '**مرفوع**' '**موقوف**' '**مقطوع**'သုံးခုစလုံးပေါ်တွင် နှစ်မျိုးစလုံးကို အသုံးပြုသည်။ ရှရဟ်ဆွဟီးဟ်မွတ်စ်လင်မ်ကျမ်း အတွဲ(၁)–စာမျက်နှာ(၂၃)တွင် အေမာမ်နဝဝီ(ရဟ်)သခင်က ဂျူမ်ဟူးရ်ခလဖ့်–စလဖ့် ပညာရှင်ကြီးများထံ၌ ဟဒီးဆ်နှင့် အဆ်ရ်(ခဗရ်)တွင် တစ်စုံတစ်ရာခြားနားခြင်းမရှိပါ။ '**مرفوعة**' '**موقوفة**' '**مقطوعة**' သုံးခုစလုံးပေါ်တွင် နှစ်မျိုးစလုံးသုံးနှုန်းသည်ဟု မိန့်ဆိုထားပေ၏။ အလ္လာမဟ်လခ်နဝီသခင်ကလည်း ဤသည်ကိုသာရွေးချယ်သည်ဟူ၍ နုဖရှ်အမာနီကျမ်း စာမျက်နှာ(၄–၅)တွင် ထုတ်ဖော်ရေးသားထားပေ၏။

(၃) အချို့သောပညာရှင်ကြီးများထံ၌ ခြားနားပေ၏။ **حديث** 'ဟဒီးဆ်' စကားလုံးကို **مرفوع** များတွင်သာသုံးနှုန်းပြီး၊ **خبر** 'ခဗရ်' ကို **موقوف** နှင့် **مقطوع** တွင်သာ သုံးနှုန်းပေ၏။ ဤသည် နိုရာစန်မှ ဖုကဟ်ပညာရှင်ကြီးများ၏ လမ်းစဉ်တည်း။

**حديث** 'ဟဒီးဆ်'နှင့် **سنة** 'ဆွန္နသ်' အဓိပ္ပာယ်တူဆင်သည်။

**خبر** 'ခဗရ်' နှင့် **أثر** 'အဆ်ရ်' အဓိပ္ပာယ်တူဆင်သည်။

**حديث** 'ဟဒီးဆ်' **خبر** 'ခဗရ်' အထက်တွင်ဖော်ပြခဲ့ပြီး။



**အခန်း(၄)**

# فضل علم الحديث

## ဟဒီးဆ်ပညာ၏ ထူးမြတ်ခြင်းအကြောင်း

ဟဒီးဆ် ပညာ၏ထူးမြတ်ခြင်းနှင့်စပ်လျဉ်း၍အချက်(၅)ချက်ရှိပေသည်။

(၁) ဟဒီးဆ်ပညာသည် ကုရ်အာန်ကျမ်းတော်မြတ်မှအပ၊ အခြားသော ပညာရပ်အားလုံးတို့ ထက် အဘက်ဘက်မှ သာလွန်ထူးကဲမွန်မြတ်လှပေ၏။

ဆိုလိုရင်းအချက်သည်- **موضوع** 'မောင်ဝ်သူးအ်'၊ **غاية** 'ဂါယသ်'၊ **ثمرة** 'ဆမရဟ်'၊ **تأثير** 'သအ်ဆီးရ်'၊ **معلومات** 'မအ်လူမားသ်' တည်းဟူသော ဘက်ပေါင်းစုံဖြင့် သာလွန်ထူးကဲမြင့်မြတ်ခြင်းကို ဆိုလိုသည်။

မုဟဒ္ဒိဆီးန်၊ မုသကလ်လေ့မီးန် ပညာရှင်ကြီးများ အများစုထံ၌ **علم تفسير** 'အိလ်မေ့ သဖ့်စီးရ်' သဖ့်စီးရ်ပညာထက်ပင်လျှင် သာလွန်မွန်မြတ်ပေ၏။ အဘယ့်ကြောင့်ဆိုသော် **علم تفسير** 'အိလ်မေ့သဖ့်စီးရ်' ၏အခြေတည်ချက်သည် **كلام الله لفظا** 'ကလားမိလဖ့်ဇ်'

တည်းဟူသော ကုရ်အာန်ကျမ်းတော်မြတ်၏ အက္ခရာများ အသံထွက်များဖြင့် ပေါင်းစပ်ဖွဲ့စည်းထားချက်များအား အခြေခံ၍ပေါက်ဖွားလာခြင်းဖြစ်ပြီး၊ 'ဆိလ်မေ့ဟဒီးဆ်'၏ အခြေတည်ချက်သည် ရိစာလသ် တည်းဟူသော နဗီရစူလ်ဖြစ်ခြင်းပေါ်၌ အခြေခံခြင်းကြောင့်တည်း။

သို့ဖြစ်ရာ 'ဟဒီးဆ်'ပညာသည် عرش 'အရ်ရှ်' كرسى 'ကုရ်စီ'၊ بيت الله 'ဗိုယ်သုလ်လာဟ်' (ကအ်ဗဟ်ကျောင်းတော်)ထက်ပင်သာမက ရှိရှိသမျှအဖန်ဆင်းခံတို့ထက် သာလွန်ထူးကဲမြင့်မြတ်လှပေသည်ဟု ဆိုရာတွင် ပညာရှင်ကြီးများအားလုံး တစ်ညီတစ်ညွှတ်တည်းပင် ဖြစ်၏။ ဆိလ်မေ့ဟဒီးဆ် 'ဟဒီးဆ်ပညာ' သာလွန် မွန်မြတ်ရခြင်းသည် အခြေတည်မှု မြင့်မြတ်ခြင်းကြောင့်သာလျှင် ဖြစ်ပေ၏။

(၂) တမန်တော်မြတ်ﷺက ဟဒီးဆ်သင်ယူသူ၊ သင်ပြပေးသူ၊ တစ်ဆင့်ပို့ချပေးသူများအတွက် ဆုမွန်ဒိုအာများ တောင်းဆိုပန်ကြားတော်မူခဲ့ပေ၏။ ဤသည်ပင်လျှင်ကြီးမားလှသော ဆုလာဘ်တော်ကြီးတစ်ပါးဖြစ်ပေ၏။

တမန်တော်မြတ်ﷺ၏ ဩဝါဒတော်တစ်ပါးတွင် အောက်ပါအတိုင်းလာရှိပေ၏။

نَضَّرَ اللّٰهُ عَبْدًا سَمِعَ مَقَالَتِى فَحَفِظَهَا وَ وَعَاهَا وَ اَدَّاهَا

ဤဩဝါဒတော်ကို အဗ္ဗဒုလ္လာအစ်ဗ်နုမတ်စ်အူးဒ်ﷺသခင်မှတဆင့် ရိဝါယသ်ပြု၏။

(၃) တမန်တော်မြတ်၏ **سنت** ဩဝါဒတော်များကို ဖြန့်ချိသူ၊ သင်ယူပို့ချပေးသူသည် တမန်တော်မြတ်၏ ခလီဖဟ်(ကိုယ်စားလှယ်တော်)များဖြစ်ကြပေ၏။ အဘယ့်ကြောင့်ဆိုသော် တမန်တော်မြတ်ﷺပွင့်တော်မူရခြင်း၏ အဓိကရည်ရွယ်ချက်သည်ကပင် အစ္စလာမ်သာသနာတော်ကို ပို့ချသင်ပြပေးတော်မူရန်အတွက်ဖြစ်ပေရာ၊ ဟဒီးဆ်တော်များကို သင်ယူပို့ချပေးခြင်းသည်လည်း အစ္စလာမ်သာသနာတော်ကို ဖြန့်ချိပို့ချပေးခြင်း၏ အရေးကြီးသောအချက် တစ်ရပ်ဖြစ်သောကြောင့်တည်း။
တမန်တော်မြတ်ﷺက၊ မိမိ၏ ဟဒီးဆ်ဩဝါဒတော်များကို သင်ယူသူ၊ သင်ပြပေးသူ၊ တဆင့်ဖြန့်ချိပို့ချသူသည် မိမိ၏ခလီဖဟ်(ကိုယ်စားလှယ်တော်)များဖြစ်ကြပေသည်ဟူ၍ အောက်ဖော်ပြပါဩဝါဒတော်တွင် မိန့်ကြားထားတော်မူခဲ့၏

اَللّٰھُمَّ ارْحَمْ خُلَفَائِیْ قِیْلَ وَمَنْ خُلَفَائُكَ یَارَسُوْلَ اللهِ (قَالَ الَّذِیْنَ یَرْوُوْنَ اَحَادِیْثِیْ)

قَالَ الَّذِیْنَ یَحْفَظُوْنَ اَحَادِیْثِیْ وَیُبَلِّغُوْنَهَا اِلَی النَّاسِ (رواه فی مسند البزار)

(၄) တမန်တော်မြတ်ﷺအား 'ဒရူးဒ်စလ္လာမ်' အများဆုံးပို့သသူသည် ကိယာမသ်နေ့တွင် တမန်တော်မြတ်နှင့် အနီးဆုံးပုဂ္ဂိုလ်ထူးပုဂ္ဂိုလ်မြတ် ဖြစ်ပေမည်။
ဟဒီးဆ် သင်ပေးသင်ယူပြုသူများ ဒရူးဒ်စလာမ် ပို့သခွင့်ရရှိသကဲ့သို့ အခြားသူများရရှိနိုင်ကြမည်မဟုတ်ချေ။ အဘယ့်ကြောင့်ဆိုသော် ယင်းပုဂ္ဂိုလ်တို့သည် ဟဒီးဆ်ဩဝါဒတော်တိုင်းတွင် **صلى الله عليه وسلم** (ဆွလ္လလ္လာဟု့အလိုင်ဟိဝစလ္လမ်)ဟူ၍ ဖတ်ရွတ်ပို့သလျက်ရှိနေကြခြင်းကြောင့်ပင်တည်း။

عن عبد الله بن مسعود ؓ قال قال رسول الله ﷺ ان اولى الناس بى يوم القيامة
اكثرهم على صلوة (رواه الترمزى و ابن حبان مشكوه)

(၅) အေမာမ်အဗူဟနီဖဟ်(ရဟ်)သခင်က စွန္နသ်(ဟဒီးဆ်)တော်များသာမရှိခဲ့လျှင် ကျွန်ုပ်တို့ထဲမှ မည်သူတစ်ဦးမျှ ကုရ်အာန်ကျမ်းတော်မြတ်၏ အနက်အဓိပ္ပာယ်များကို နားလည်သဘောပေါက်မည်မဟုတ်ပါဟု မိန့်၏။

قَالَ الْاِمَامُ اَبُوْ حَنِیْفَةَ لَوْلَا السُّنَّةُ لَمَا فَهِمَ الْقُرْاٰنَ اَحَدٌ مِنَّا

အေမာမ်ရှာဖေ့အီ(ရဟ်)သခင်က အေမာမ်ကြီးများ၏မိန့်ဆိုချက်သည်'စွန္နသ်'(ဟဒီးဆ်)တော်များ၏ အကျယ်ဖွင့်ဆိုချက်များသာဖြစ်ပေ၏၊ ဟဒီးဆ်ဩဝါဒတော်များ၏ မိန့်ဆိုချက်သည် ကုရ်အာန်ကျမ်းတော်မြတ်၏ အကျယ်ဖွင့်ဆိုချက်များသာဖြစ်ပေသည်ဟု မိန့်၏။

قال الأمام الشافعى جميع ما تقوله الأئمة شرح للسنة و جميع ما تقوله السنة
شرح للقران

ဒါဝူးဒ်ဗင်န် အလီဇွာဟေရီ(ရဟ်)သခင်က တမန်တော်မြတ်ﷺ၏ 'ဟဒီးဆ်' ဩဝါဒတော်များနှင့်စပ်လျဉ်း၍ ဆွဟီးဟ်ဖြစ်သော၊ စကီးမ် ဖြစ်သော စသည်တို့အား ပိုင်းခြားစိတ်ဖြာစွာ နားလည်တတ်ကျွမ်းသူမဟုတ်လျှင် ယင်းသူသည် အာလင်မ် 'ပညာရှင်'မဟုတ်ပါဟူ၍မိန့်၏။

قال داود بن على ظاهرى مَنْ لَّمْ يَعْرِفْ حَدِيْثَ رسول اللهﷺ

وَلَمْ يُمَيِّزْ بَيْنَ صَحِيْحِهٖ وَسَقِيْمِهٖ فَلَيْسَ بِعَالِمٍ

အဗ္ဗဒုလ္လာဟိဗ္ဗန မုဗာရပ်က်(ရဟ်)သခင်က စနဒ်(ဆရာအဆက်ဆက်ကို ကိုးကားဖော်ပြသော အကြောင်းပြချက်ရယူခြင်း)သည် သာသနာ့ကျင့်ဝတ်များအနက်မှပင် ဖြစ်ပေသည် ဤသည့် (စနဒ်(သို့)အစ်နားဒ်) အထောက်အထား အကိုးအကားများကိုသာ မှတ်သားရယူခဲ့ခြင်းမရှိလျှင်၊ အကြင်သူသည် ပြောချင်ရာပြောကြားလိမ့်မည်ဟုမိန့်၏။

الأسناد من الدين ولو لا الاسناد لقال من شاء ماشاء

✕◇✕◇✕◇✕◇✕◇✕

## အခန်း(၅)

## حجية الحديث

## ဟဒီးဆ်၏ အထောက်အထားအကြောင်း

တမန်တော်မြတ်ﷺ၏ ဟဒီးဆ်ဩဝါဒတော်များသည် ရှရီအသ်၏ အကိုးအကားများပင်ဖြစ်ပေ၏။ ဤသည်ကိုလိုက်နာကျင့်သုံးရန် အထူးအရေးကြီးလှပေ၏။ ဤသည်နှင့်စပ်လျဉ်း၍ ကုရ်အာန်ကျမ်းတော်မြတ်၏ မြောက်များစွာသော အာယသ်တော်များတွင် အတိအလင်းညွှန်ကြားထားပေ၏။ ယင်းသို့ညွှန်ကြားထားသောအာယသ်တော်

ပေါင်းမြောက်များစွာတို့အနက်မှ အာယသ်တော်(၁၀)ပါးကို ရေးသားဖော်ပြလိုက်ပါသည်။

(၁) قُلْ إِن كُنتُمْ تُحِبُّونَ اللَّهَ فَاتَّبِعُونِي يُحْبِبْكُمُ اللَّهُ وَيَغْفِرْ لَكُمْ ذُنُوبَكُمْ

(အိုတမန်တော်) အသင်သည် (လူခပင်းတို့အား၎င်းသို့) ပြောကြားပါလေ။ အကယ်၍ အသင်တို့သည် အလ္လာဟ်အရှင်မြတ်အား ချစ်ကြည်မြတ်နိုးကြပါမူ ငါ၏အမိန့်ဩဝါဒများကို အစဉ်တစိုက်လိုက်နာကြကုန်၊ (သို့မှသာ) အသင်တို့အား အလ္လာဟ်အရှင်မြတ်သည် ချစ်ကြည်မြတ်နိုးတော်မူအံ့။ ထို့ပြင်တဝ ထိုအသျှင်မြတ်သည် အသင်တို့၏ ပြစ်မှုဒုစရိုက်များကိုလည်း လွတ်ငြိမ်းချမ်းသာခွင့်ပေးသနားတော်မူအံ့။ အစောင်(၃)-ကဏ္ဍ(၃)-အာယသ်(၃၀)

၎င်းအာယသ်တော်မြတ်ဖြင့် သိရှိရသည်မှာ- တမန်တော်မြတ်၏ ဩဝါဒတော်များကို လိုက်နာခြင်းသည်သာလျှင် အလ္လာဟ်အရှင်မြတ်၏ ချစ်ကြည်မြတ်နိုးတော်မူခြင်းနှင့် ပြစ်မှုများမှ လွတ်ငြိမ်းချမ်းသာခွင့်ရရှိခြင်း၏ တစ်ခုတည်းသော မှီခိုအားထားရာဖြစ်ပေ၏။

(၂) قُلْ أَطِيعُوا اللَّهَ وَالرَّسُولَ ۖ فَإِن تَوَلَّوْا فَإِنَّ اللَّهَ لَا يُحِبُّ الْكَافِرِينَ

အသင်ပြောကြားပါလေ။ အသင်တို့သည် အလ္လာဟ်အရှင်မြတ်၏ အမိန့်တော်များကိုလည်းကောင်း၊ ရစူလ်တမန်တော်၏ အမိန့်ဩဝါဒများကိုလည်းကောင်း (တသဝေမတိမ်း) လိုက်နာကြကုန်၊ တဖန် အကယ်၍သာ ယင်းသူတို့သည် သွေဖည်ကျောခိုင်း၍ လွှဲရှောင်သွားကြပါမူ မလွဲဧကန် အလ္လာဟ်အရှင်မြတ်သည် ကာဖိရ်တို့ကိုကား နှစ်သက်တော်မမူချေ။ အစောင်(၃)-ကဏ္ဍ(၃)-အာယသ်(၃၁)

၎င်းအာယသ်တော်မြတ်ဖြင့် သိရှိရသည်မှာ အလ္လာဟ်အရှင်မြတ်၏ အမိန့်တော်များကို နာခံသကဲ့သို့ပင် တမန်တော်မြတ်၏ အမိန့်ဩဝါဒတော်များကို လိုက်နာခြင်းသည်လည်း **واجب** 'ဝါဂျစ်ဗ်' (မုချတာဝန်)ဖြစ်ပေ၏။ ၎င်းသည်အား သွေဖည်လွှဲရှောင်ကျောခိုင်းခြင်းသည် ကုဖ်ရ်ဖြစ်ပေ၏။

(၃) يَاَيُّهَا الَّذِيْنَ اٰمَنُوْا اَطِيْعُوا اللّٰهَ وَاَطِيْعُوا الرَّسُوْلَ وَاُولِى الْاَمْرِ مِنْكُمْ ۚ

فَاِنْ تَنَازَعْتُمْ فِىْ شَيْءٍ فَرُدُّوْهُ اِلَى اللّٰهِ وَالرَّسُوْلِ اِنْ كُنْتُمْ تُؤْمِنُوْنَ

بِاللّٰهِ وَالْيَوْمِ الْاٰخِرِ

အိုသက်ဝင်ယုံကြည်ကြသူအပေါင်းတို့၊ အသင်တို့သည် အလ္လာဟ်အရှင်မြတ်၏အမိန့်တော်များကို လိုက်နာကြလေကုန်၊ ထိုနည်းတူစွာအသင်တို့သည် ရစူလ်တမန်တော်၏ အမိန့်တော်များကိုလည်းကောင်း၊ မိမိတို့အနက်မှ အာဏာပိုင်များ၏အမိန့်ကိုလည်းကောင်း၊ လိုက်နာကြလေကုန်။ တဖန် အကယ်၍အသင်တို့သည် တစ်စုံတစ်ရာကိစ္စနှင့်စပ်လျဉ်း၍ အငြင်းပွားခဲ့ကြသော်၊ အသင်တို့သည် အလ္လာဟ်အရှင်မြတ်ကိုလည်းကောင်း၊ နောက်ဆုံးနေ့ကိုလည်းကောင်း သက်ဝင်ယုံကြည်ကြပါလျှင် ထိုကိစ္စကို အလ္လာဟ်အရှင်မြတ်ထံတော်သို့လည်းကောင်း၊ ရစူလ်တမန်တော်၏ထံသို့လည်းကောင်း၊ ပြန်လည်၍ပို့သကြလေကုန်။ ဤ(သို့ပြုလုပ်ခြင်း)သည်ကား (အသင်တို့အဘို့ ဤမျက်မှောက်လောကီဘဝ၌) အမှန်မြတ်ဆုံးဖြစ်သည့်ပြင် (နောင်တမလွန်ဘဝ၌လည်း) အကျိုးအာနိသင်အားဖြင့် အကောင်းမွန်ဆုံးဖြစ်ချေသတည်း။ အစောင်(၅)–ကဏ္ဍ(၄)–အာယသ်(၅၉)

ဤအာယသ်တော်မြတ်ဖြင့် သိရှိရသည်မှာ– အလ္လာဟ်အရှင်မြတ်၏အမိန့်တော်ကိုလိုက်နာခြင်းကဲ့သို့ပင်၊ တမန်တော်မြတ်၏ အမိန့်တော်ကိုလိုက်နာခြင်းသည်လည်း ခိုင်မြဲစွာသီးသန့်တည်ရှိသောအကြောင်းတရပ်ဖြစ်ပေ၏။ အဘယ့်ကြောင့်ဆိုသော် အလ္လာဟ်နှင့် ရစူလ်တို့တွင် ‘အသွီအူ’ ဟူသောပုဒ်ကို သီးခြားစီအသုံးပြုထားပြီး၊ ‘အိုလိလ်အမ်ရိ’ ဟူသောပုဒ်တွင် ‘အသွီအူ’ ပုဒ်ကို သီးခြားသုံးနှုန်းထားခြင်းမရှိရာ၊ ၎င်းတို့၏အမိန့်ကိုလိုက်နာခြင်းအမိန့်သည် သီးခြားရပ်တည်နေသည်မဟုတ်ပဲ၊ အလ္လာဟ်နှင့် ရစူလ်၏ အမိန့်ကိုလိုက်နာခြင်း၏ နောက်လိုက်သာဖြစ်သောကြောင့်တည်း။

(اولى الامر) အာဏာပိုင်များဟူသည် မည်သူများနည်း? ဤသည်တွင်အဆိုအပြားပြားရှိ၏။ သို့ဖြစ်သော်လည်း ဤအာယသ်တော်တွင်ပါရှိသော အာဏာပိုင်များဟူသည်မှာ မွတ်စ်လင်မ်အာဏာပိုင်များကိုသာဆိုလိုသည်။ မာဂျီဒီ၊ အလ်မနာရ်ကျမ်း

**منكرين حديث** (ဟဒီးဆ်ကိုငြင်းပယ်သူများ)က တမန်တော်မြတ်၏ခေတ်ကာလတွင် ကိုယ်တော်မြတ်၏ 'စီရတ်' အားလိုက်နာရခြင်းသည် ကိုယ်တော်မြတ်သည် **امي** 'အမီးရ်' ဖြစ်ခြင်းကြောင့်သာ (လိုက်နာခြင်း)ဝါဂျစ်ဗ် (မုချတာဝန်)ဖြစ်ခဲ့ရခြင်း၊ ဖြစ်သည်ဟု(ယူဆ)ပြောဆိုကြ၏။ ၎င်းတို့၏ ယင်းသို့ယူဆပြောဆိုချက်သည် မှားယွင်းကြောင်း အထက်တွင်ဖော်ပြခဲ့သည့် အကြောင်းအရာများဖြင့် သိသာထင်ရှားလှပေ၏။

ဤအာယသ်တော်တွင်ပါရှိသော **فردوه الى الله والرسول** ဟူသောအမိန့်တော်ဖြင့် သိရှိရသည်မှာ၊ မိမိတို့အချင်းချင်း အငြင်းပွားသောပြဿနာနှင့် စပ်လျဉ်းရာတွင် အလ္လာဟ်၊ ရစူလ်ထံသို့လွှဲအပ်ရန် ဝါဂျစ်ဗ်ဖြစ်၏။ အလ္လာဟ်အရှင်မြတ်ထံတော်သို့ လွှဲအပ်ခြင်းဟူသည် အလ္လာဟ်အရှင်မြတ်၏ ကျမ်းတော်မြတ်နှင့်အညီ လိုက်နာကျင့်သုံးခြင်းဆိုသည်မှာ ထင်ရှားလှပေ၏။ တမန်တော်မြတ်ထံသို့လွှဲအပ်ခြင်းဟူသည်မှာ တမန်တော်မြတ်သက်တော်ထင်ရှားရှိစဉ်၊ တမန်တော်မြတ်ထံသို့ချဉ်းကပ်၍ တမန်တော်မြတ်၏ အမိန့်ဩဝါဒတော်နှင့်အညီ လိုက်နာကျင့်သုံးခြင်းကိုလည်းကောင်း၊ တမန်တော်မြတ်ကွယ်လွန် အနိစ္စရောက်ပြီးနောက်တွင်မူ၊ တမန်တော်မြတ်၏ ဟဒီးဆ်'ဩဝါဒ' တော်များနှင့်အညီ လိုက်နာကျင့်သုံးခြင်းမှတစ်ပါး အခြားမရှိပြီ။ ဤအမိန့်သည် 'ကေယာမသ်' တိုင်အောင်တည်ရှိနေမည်သာတည်း။

(၄) فَلَا وَرَبِّكَ لَا يُؤْمِنُونَ حَتَّىٰ يُحَكِّمُوكَ فِيمَا شَجَرَ بَيْنَهُمْ ثُمَّ لَا يَجِدُوا
فِي أَنفُسِهِمْ حَرَجًا مِّمَّا قَضَيْتَ وَيُسَلِّمُوا تَسْلِيمًا ۝

သို့ဖြစ်ပေရာ အသင်အားဖန်ဆင်းမွေးမြူတော်မူသော အသျှင်မြတ်၏ 'ကစမ်'၊ ထိုသူတို့သည်မိမိတို့အချင်းချင်း အငြင်းပွားသော ပြဿနာနှင့်စပ်လျဉ်း၍ အသင့်အားခုံသမာဓိ တင်မြှောက်ခြင်းမရှိသမျှကာလပတ်လုံး၊ ပြီးနောက်၎င်းတို့သည် အသင်စီရင်ခဲ့သော ဆုံးဖြတ်ချက်နှင့် စပ်လျဉ်း၍ မိမိတို့စိတ်တွင်းဝယ် မည်သည့်ကျဉ်းကျပ်မှုကိုမျှ မတွေ့ရှိကြသည့်ပြင်(ယင်းစီရင်ဆုံးဖြတ်ချက်ကို) အပြည့်အစုံ (ကြည်ဖြူစွာ) လက်ခံနာယူခြင်းမရှိသမျှကာလပတ်လုံး ထိုသူတို့သည် 'မုအ်မင်န်' သက်ဝင်ယုံကြည်သူများ ဖြစ်ကြမည်မဟုတ်ပေ။ အစောင်(၅)-ကဏ္ဍ(၄)-အာယသ်(၆၅)

ဤအာယသ်တော်မြတ်ဖြင့် သိရှိရသည်မှာ-မိမိတို့အချင်း အငြင်းပွားလျက်ရှိသော

ပြဿနာတွင် တမန်တော်မြတ်ထံမှ စီရင်ဆုံးဖြတ်ချက်ကိုရယူခြင်း၊ ယင်းသို့ရယူထားသောဆုံးဖြတ်ချက်ကို စိတ်ရောကိုယ်ပါကြည်ဖြူစွာဖြင့် လက်ခံကျင့်သုံးခြင်းသည် အီမာန်ယုံကြည်ချက်များအနက်မှ အလျှင်အဦးဆုံး စည်းကမ်းသတ်မှတ်ပြဋ္ဌာန်းချက်များပင်ဖြစ်သည်မှာ လယ်ပြင်တွင်ဆင်သွားသကဲ့သို့ ပေါ်လွင်ထင်ရှားသိသာလွန်းလှပေ၏။

(၅) مَنْ يُّطِعِ الرَّسُوْلَ فَقَدْ اَطَاعَ اللّٰهَ

မည်သူမဆို ရစူလ်တမန်တော်၏အမိန့်ကို လိုက်နာပါလျှင်၊ ထိုသူသည် ကေန်စင်စစ်အလ္လာဟ်အရှင်မြတ်၏ အမိန့်တော်များကိုလိုက်နာသည်မည်၏။ အစောင်(၅)- ကဏ္ဍ(၄)- အာယသ်(၈၀)

ဤအာယသ်တော်မြတ်ဖြင့် သိရှိရသည်မှာ- တမန်တော်မြတ်၏အမိန့်ကိုလိုက်နာခြင်းသည် အလ္လာဟ်အရှင်မြတ်၏အမိန့်ကို လိုက်နာခြင်းပင်ဖြစ်ပေ၏။

(၆) وَ اَنْزَلْنَاۤ اِلَيْكَ الذِّكْرَ لِتُبَيِّنَ لِلنَّاسِ مَا نُزِّلَ اِلَيْهِمْ

ထိုမှတပါး ငါအရှင်မြတ်သည် အသင့်ထံသို့ကျမ်းဂန်ဓမ္မခန်ကို အသင်သည်လူသားတို့အား ထိုသူတို့ထံချပေးတော်မူခြင်းခံရသည့် အမိန့်တော်များကို ထင်ရှားပြစေအံ့သောငှာ၊ ချပေးပေးသနားတော်မူခဲ့ပေသည်။ အစောင်(၁၄)- ကဏ္ဍ(၁၆)- အာယသ်(၄၄)

ဤအာယသ်တော်မြတ်ဖြင့် သိရှိရသည်မှာ- ကုရ်အာန်ကျမ်းမြတ်၏ရည်ညွှန်းချက်အားအကျယ်တဝင့် ဖွင့်ဆိုရှင်းလင်းပြရန်တာဝန်သည် တမန်တော်မြတ်၏ မုချတာဝန်ဖြစ်၏။ သို့ဖြစ်ရာ တမန်တော်မြတ်၏ 'ဟဒီးဆ်' သြဝါဒသည် ကျမ်းမြတ်ကုရ်အာန်၏ 'သဖ်စီးရ်' နှင့် 'ရှရဟ်' အကျယ်ဖွင့်ဆိုရှင်းလင်းချက်များသာ ဖြစ်ပေ၏။ တမန်တော်မြတ်၏ 'ဟဒီးဆ်' သြဝါဒတော်များနှင့်ဆန့်ကျင်၍ ကုရ်အာန်ကျမ်းမြတ်ကို အကျယ်ဖွင့်ဆိုခြင်းသည် မှားယွင်းကြောင်းထင်ရှားပေ၏။

(၇) لَقَدْ كَانَ لَكُمْ فِي رَسُولِ اللَّهِ أُسْوَةٌ حَسَنَةٌ لِمَنْ كَانَ يَرْجُو اللَّهَ

وَالْيَوْمَ الْآخِرَ وَذَكَرَ اللَّهَ كَثِيرًا ۝

စကန်မလွဲ အသင်တို့အဖို့(ဝါ) အလ္လာဟ်အရှင်မြတ်ကိုလည်းကောင်း၊ နောက်ဆုံးနေ့ကိုလည်းကောင်း ကြောက်ရွံ့သည့်ပြင်၊ အလ္လာဟ်အရှင်မြတ်အား များစွာအောက်မေ့ 'တသ' သတိရလျက်ရှိသူ၏အဖို့ အလ္လာဟ်အရှင်မြတ်၏ ရစူလ်တမန်တော်မြတ်၌ မွန်မြတ်လှသောစံနမူနာသည် ရှိပေ၏။ အစောင်(၂၁)– ကဏ္ဍ(၃၃)– အာယသ်(၂၁)

ဤအာယသ်တော်မြတ်ဖြင့် ထင်ရှားသည်မှာ– မွတ်စ်လင်မ်တိုင်း မွတ်စ်လင်မ်တိုင်း မိမိတို့၏ ဘဝသက်တမ်းကို တမန်တော်မြတ်၏ **سيرت** (ဘဝသက်တမ်းတခုလုံး)အား စံနမူနာအဖြစ်စံတည်အတုယူကာ မွေးမြူတည်ဆောက်ကြရမည်ဖြစ်၏။ တမန်တော်မြတ်၏ စံနမူနာအားလက်တွေ့လိုက်နာကျင့်သုံးခြင်းကို အာရုံခံစားသိရှိနိုင်သူသည် ထိုသို့သော သူမွန်သူမြတ်တို့သာဖြစ်၏၊ ယင်းသူတို့သည် အာခေရသ်အရေးကို စဉ်းစားမျှော်မြင်လျက်၊ အလ္လာဟ်အရှင်မြတ်အား ချစ်ကြောက်ရိုသေကာ၊ အမြဲမပြတ်အောက်မေ့'တသ' သတိရလျက်ရှိကြသူများသာဖြစ်ကြပေ၏။

(၈) وَمَا كَانَ لِمُؤْمِنٍ وَلَا مُؤْمِنَةٍ إِذَا قَضَى اللَّهُ وَرَسُولُهُ أَمْرًا أَنْ يَكُونَ

لَهُمُ الْخِيَرَةُ مِنْ أَمْرِهِمْ ۗ وَمَنْ يَعْصِ اللَّهَ وَرَسُولَهُ فَقَدْ ضَلَّ ضَلَالًا مُبِينًا ۝

မည်သည့်'မုအ်မင်န်' သက်ဝင်ယုံကြည်သူ ယောကျ်ားတစ်ဦးဦး၌ဖြစ်စေ မည်သည့်သက်ဝင်ယုံကြည်သူ မိန်းမတစ်ဦးတစ်ယောက်၌ဖြစ်စေ အရေးကိစ္စတစုံတရာကို အလ္လာဟ်အရှင်မြတ်သည်လည်းကောင်း၊ ထိုအရှင်မြတ်၏ ရစူလ်တမန်တော်မြတ်သည်လည်းကောင်း အမိန့်ချမှတ်တော်မူလိုက်ပါလျှင်၊ ၎င်းတို့၏(ထို) အရေးကိစ္စနှင့်စပ်လျဉ်း၍ ၎င်းတို့၌ရွေးချယ်ပိုင်ခွင့်သည်(လုံးဝ)မရှိတော့ပြီ၊ စင်စစ်သော်ကား မည်သူမဆို အလ္လာဟ်အရှင်မြတ်၏ အမိန့်တော်ကိုလည်းကောင်း၊ ထိုအရှင်မြတ်၏ ရစူလ်တမန်တော်မြတ်၏အမိန့်တော်ကိုလည်းကောင်း ဖီဆန်သည်ရှိသော်စကန်မလွဲ ထိုသူသည် ထင်ရှားလှစွာသော လမ်းလွဲခြင်းသို့ရောက်ရှိခဲ့ချေပြီတကား။ အစောင်(၂၂)– ကဏ္ဍ(၃၃)– အာယသ်(၃၆)

ဤအာယသ်တော်မြတ်ဖြင့် အတိအလင်းသိရှိသည်မှာ– အလ္လာဟ် ရစူလ်၏ စီရင်ဆုံးဖြတ်ချက် ချမှတ်တော်မူလိုက်ပြီးဖြစ်လျှင်၊ အီမာန်ရှင်တိုင်း ထိုစီရင်ဆုံးဖြတ်ချက်ကို လက်ခံခြင်းမှတပါး အခြားနည်းလမ်းမရှိတော့ပြီ။ ဤသည်ဖြင့် မိမိတို့၏ရွေးချယ်ပိုင်ခွင့်သည်လည်း ကုန်ဆုံးသွားချေပြီ။ ဤသည့်စီရင်ဆုံးဖြတ်ချက်အား လက်မခံငြင်းပယ်ခြင်းသည် ထင်ရှားလှသောလမ်းမှားကြီးသာဖြစ်ပေ၏။

(၉) وَمَا اٰتٰكُمُ الرَّسُوْلُ فَخُذُوْهُ ۚ وَمَا نَهٰكُمْ عَنْهُ فَانْتَهُوْا ۚ وَاتَّقُوا اللّٰهَ ۭ

اِنَّ اللّٰهَ شَدِيْدُ الْعِقَابِ ۝

ထို့ပြင် အသင်တို့သည် မိမိတို့အား ရစူလ်တမန်တော်မြတ်ကပေးခဲ့သည်ကို ယူကြလေကုန်။ ထိုနည်းတူစွာ ထိုရစူလ်တမန်တော်မြတ်က တားမြစ်တော်မူသည်မှ ရှောင်ကြဉ်ကြကုန်။ ထို့မှတပါး အသင်တို့သည် အလ္လာဟ်အရှင်မြတ်အား ကြောက်ရွံ့ကြကုန်၊ ကေန်မလွဲ အလ္လာဟ်အရှင်မြတ်သည် ပြင်းထန်စွာ အပြစ်ပေးတော်မူသောအရှင်မြတ်ပင် ဖြစ်တော်မူပေသတည်း။ အစောင်(၂၈)– ကဏ္ဍ(၅၉)– အာယသ်(၇)

ဤအာယသ်တော်မြတ်ဖြင့် သိရှိရသည်မှာ– တမန်တော်မြတ် မိန့်ကြားတော်မူသမျှ (**قول** –ဖြစ်စေ၊ **فعل** ဖြစ်စေ၊ **تقرير** ဖြစ်စေ) အားလုံးကိုနာခံကြရမည်။ တားမြစ်တော်မူသမျှကို ရှောင်ကြဉ်ကြရပေမည်။ ဖီလာဆန့်ကျင်သူများအတွက် ပြင်းထန်စွာ ပြစ်ဒဏ်ခတ်တော်မူမည့်အကြောင်းသတိပေးနိုးဆော်ထားပေ၏။

(၁၀) لَقَدْ مَنَّ اللّٰهُ عَلَى الْمُؤْمِنِيْنَ اِذْ بَعَثَ فِيْهِمْ رَسُوْلًا مِّنْ اَنْفُسِهِمْ يَتْلُوْا عَلَيْهِمْ

اٰيٰتِهٖ وَيُزَكِّيْهِمْ وَيُعَلِّمُهُمُ الْكِتٰبَ وَالْحِكْمَةَ ۚ

အလ္လာဟ်အရှင်မြတ်သည်'မုအ်မင်န်' သက်ဝင်ယုံကြည်သောသူတို့ထံသို့ ထိုသူတို့၏

အထဲမှပင် အကြင်ရစူလ်တမန်တော်တစ်ပါးကို စေလွှတ်တော်မူခြင်းအားဖြင့် မုချယင်းသူတို့အပေါ် (မဟာ) ကျေးဇူးတော်ကို ပြုတော်မူခဲ့ချေပြီ။ ထိုရစူလ်တမန်တော်သည် ယင်းသူတို့ရှေ့မှောက်ဝယ် အလ္လာဟ်အရှင်မြတ်၏ ဒေသနာတော်များကိုလည်း ဖတ်ကြားလေသည်။ ထိုသူတို့အား (ပြစ်မှုဒုစရိုက်အပေါင်းမှ) သန့်စင်အောင်လည်းပြုချေသည်။ ၎င်းပြင် ယင်းသူတို့အား(အလ္လာဟ်အရှင်မြတ်၏) ကျမ်းဂန်တော်ကိုလည်းကောင်း၊ ထူးသောဉာဏ်အမြော်အမြင်ကိုလည်းကောင်း၊ သွန်သင်ပြသ သင်ကြားပို့ချလေသည်။ အမှန်စင်စစ် ၎င်းတို့သည်(ထိုရစူလ်တမန်တော်မပွင့်မီ) အလျှင်က ထင်ရှားလှသောလမ်းလွဲမှုဌ်ပင် မုချကေန်ရှိနေခဲ့ကြကုန်၏။ အခေါင်(၄)– ကဏ္ဍ(၃)– အာယသ်(၁၆၃)

တမန်တော်မြတ်အား ကျမ်းမြတ်ကုရ်အာန်နှင့်အတူ 'ဟိကမ်သ်' ထူးသောအမြော်အမြင်ဉာဏ်ပညာကို သင်ကြားပို့ချပေးရန်၊ ချီးမြှင့်ပေးသနားတော်မူသည်ကို ဤအာယသ်တော်မြတ်ဖြင့် သိရှိရပေ၏။ 'ဟိကမ်သ်' ဟူသော ရည်ညွှန်းချက်သည် ကိုယ်တော်မြတ်၏ 'စွန္နသ်'တော်များကိုသာ ရည်ညွှန်းခြင်းဖြစ်၏။

ထိုသို့အလားတူစွာပင် အေမာမ် 'ရှာဖွေအီ' (ရဟ်)က မိမိ၏ 'ရိစာလသ်' အမည်ရှိကျမ်းစာမျက်နှာ (၂၄)တွင် ဤသို့မိန့်ဆိုထားပေသည်။

وسمعت من ارضى من اهل العلم بالقران يقول الحكمة سنة رسول الله ﷺ

ကုရ်အာန်ကျမ်းမြတ်အားတတ်ကျွမ်းသော ပညာရှင်ကြီးများထဲမှ ကျွန်ုပ်အနှစ်ခြိုက်ဆုံးဖြစ်သော ပညာရှင်ကြီးက 'ဟစ်ကမ်သ်'ဟူသည် တမန်တော်မြတ်၏ 'စွန္နသ်' ပင်ဖြစ်သည်ဟု မိန့်ကြားခဲ့သည်ကိုကျွန်ုပ် နာကြားခဲ့ပါသည်။ (ဟု အေမာမ်ရှာဖွေအီကမိန့်၏)

**الحكمة** – 'ဟစ်ကမ်သ်' နှင့်စပ်လျဉ်း၍ သဖ့်စီးရ်ပညာရှင်ကြီးများ၏ အဓိပ္ပာယ်ဖွင့်ဆိုချက်နှစ်မျိုးနှစ်စားရှိပေသည်။ အချို့သဖ့်စီးရ် ပညာရှင်ကြီးများက **الفهم في الدين** (သာသနာရေး၌ သိမြင်တတ်သောဉာဏ်)ဟူ၍ အဓိပ္ပာယ်ဖွင့်ဆိုကြသည်။ အချို့ သဖ့်စီးရ်ပညာရှင်ကြီးများက **سنة** 'စွန္နသ်' ဟူ၍ အနက်ဖွင့်သည်။ မည်သို့ဆိုစေကာမူ ထိုအဆိုနှစ်ခုစလုံး၏ အဓိကဆိုလိုရင်းအချက်သည် တစ်မျိုးတည်းသာဖြစ်ပေ၏။

အဘယ့်ကြောင့်ဆိုသော် 'ဟစ်ကမ်သ်' ဟူသည် သိမြင်နားလည်ခြင်းနှင့် ထိုးထွင်းဉာဏ်

အလင်းရခြင်း စသည်တို့အားခြုံငုံထားသော ပြည့်စုံသည့်အမည်နာမဖြစ်၏။ သို့မှသာ ယင်းအသိပညာဉာဏ်ဖြင့် အမှန်နှင့်အမှား၊ အလင်းနှင့်အမှောင်၊ စစ်မှန်သောတရားလမ်းစဉ်နှင့် မှားယွင်းသောလမ်းစဉ် ကိုလွယ်ကူစွာဖြင့်ခွဲခြားသွားပေမည်။

ဉာဏ်အလင်းနှင့် ထိုးထွင်းသိမြင်တတ်ခြင်းတွင် 'ဟစ်က်မသ်'ကို အသုံးပြုသကဲ့သို့ပင် တစ်ခါတရံ ယင်းတို့မှပေါက်ဖွားလာသော နောက်ဆက်တွဲအကျိုးဆက်များတွင်လည်း 'ဟစ်က်မသ်' ကိုသုံးနှုန်းပေ၏။

လွှတ်က်မားန်သခင်နှင့်စပ်လျဉ်း၍ ကျမ်းမြတ်ကုရ်အာန်တွင်(ولقد اتينا لقمان الحكمة 'ထို့ပြင် ကေန်မလွဲငါအရှင်မြတ်သည် 'လွှတ်က်မားန်သခင်' အား 'ဟစ်က်မသ်' ကိုချီးမြှင့်တော်မူခဲ့၏' ) 'ဟစ်က်မသ်' ချီးမြှင့်တော်မူသည်ဟူ၍ပင် မိန့်တော်မူထားပေသည်။ ထို့နောက် လွှတ်က်မားန်သခင်၏ 'ဟစ်က်မသ်' နှင့်စပ်လျဉ်း၍ ဤသို့အကျယ်တဝင့်ဖွင့်ဆိုမိန့်ကြားတော်မူ၏ အလ္လာဟ်အရှင်မြတ်အား ကျေးဇူးတင်ခြင်း၊ အလ္လာဟ်အရှင်မြတ်နှင့် ယှဉ်တွဲကိုးကွယ်ခြင်းမှ ရှောင်ကြဉ်ခြင်း၊ မိဘနှစ်ပါးအား ဝတ်ကြီးဝတ်ငယ်ပြုခြင်း၊ သူတော်မွန်တို့၏လမ်းစဉ်ကိုလိုက်ခြင်း၊ နမားဇ်ဝတ်ပြုခြင်း၊ (ဆွဗရ်) သည်းခံခြင်း၊ မောက်မာမှု မော်ကြွားမှုကိုရှုတ်ချခြင်း၊ (အလယ်အလတ်) သိက္ခာရှိရှိသွားလာခြင်း၊ အသံကိုနှိမ့်ချ၍ ချိုသာစွာပြောဆိုခြင်း၊ (စသည်ဖြင့် မိန့်တော်မူထားပေ၏)။

သို့ဖြစ်ပေရာ အချို့သဖ္ဖ်စီးရ်ပညာရှင်များက فقه دين 'ဖိုက်ဟ်မိဒီးန်'၊ نور نبوة 'နူးရိနဗူဝသ်'၊ معرفة الطية 'မအ်ရိဖှသိအေလာဟိယဟ်' ဟူ၍ အဓိပ္ပာယ်ကောက်ယူ ဖွင့်ဆိုကြပေ၏။ အချို့သဖ္ဖ်စီးရ်ပညာရှင်ကြီးများက سنة 'စွန္နသ်' حديث 'ဟဒီးဆ်' ဟူ၍အနက်ဖွင့်ဆိုကြ၏။ မည်သို့ဆိုစေကာမူ တမန်တော်မြတ်အား ကျမ်းမြတ်ကုရ်အာန်နှင့် 'အကြင်ဟစ်က်မသ်' ကိုသင်ကြားပြသပေးရန် အမိန့်ပေးထားတော်မူခဲ့သည်ဖြစ်ရာ၊ ယင်း၏ရည်ညွှန်းချက်သည် တမန်တော်မြတ်၏ 'စွန္နသ်' ကိုသာရည်ညွှန်းခြင်းဖြစ်၏။

ကျမ်းမြတ်ကုရ်အာန်၏ နောက်တစ်နေရာတွင် وَأَنزَلَ اللّٰهُ عَلَيْكَ الْكِتَٰبَ وَالْحِكْمَةَ (အလ္လာဟ်အရှင်မြတ်သည် အသင်၏အပေါ်ဝယ် ကျမ်းမြတ်ကိုလည်းကောင်း၊ ဟစ်က်မသ် ဉာဏ်ပညာကိုလည်းကောင်း ချပေးသနားတော်မူခဲ့၏။ ( ၅း ၄း ၁၁၃) ) ဟူ၍မိန့်ကြားထားတော်မူပေ၏။

ဤအာယသ်တော်မြတ်ဖြင့်သိရှိရပေသည်၊ ကုရ်အာန်ကျမ်းမြတ်ကဲ့သို့ပင် 'ဟစ်က်မသ်' တည်းဟူသော စွန္နသ်သည်လည်း အလ္လာဟ်အရှင်မြတ်ထံတော်မှပင် ကျရောက်လာခဲ့ခြင်းဖြစ်ပေ၏ ဤမျှသာကွာဟပေ၏ ၊ အသို့ဆိုသော် ကျမ်းမြတ်ကုရ်အာန်၏ အက္ခရာစာလုံးများနှင့်အဓိပ္ပာယ်များ နှစ်မျိုးစလုံး အလ္လာဟ်အရှင်ဘက်တော်မှ ထုတ်ပြန်ချမှတ်တော်မူခြင်းဖြစ်ခဲ့ပြီး၊ 'ဟစ်က်မသ်' (ခ) 'စွန္နသ်'သည် အဓိပ္ပာယ်သဘောအားဖြင့်သာအလ္လာဟ်အရှင်မြတ်ထံတော်မှချပေးခဲ့ခြင်းဖြစ်ပေသည်

အက္ခရာစာလုံးစာသားများသာ တမန်တော်မြတ်၏ဘက်မှ ဖြစ်ပေသည်။ သို့ဖြစ်ရာ တမန်တော်မြတ်၏ 'စွန္နသ်' သည်လည်း (အလ္လာဟ်အရှင်မြတ်ထံတော်မှ မျှပေးခြင်းခံရသော) **منزل من الله** 'မုနတ်ဇ်ဇလ္လွန်မ်မေ့နလ္လားဟ်' ဖြစ်ပေရာ လိုက်နာရန် အရေးကြီးသည်သာမက၊ ဤသည်ကို အိမာန်သက်ဝင်ယုံကြည်ရန်လည်း အရေးကြီးပေ၏။ အဘယ့်ကြောင့်ဆိုသော် ကျမ်းမြတ်ကုရ်အာန်တွင် وَاٰمِنُوا بِمَا اَنْزَلْتُ (ငါအရှင်မြတ်ထုတ်ပြန်ချမှတ်တော်မူသောအရာကို အသင်တို့ အိမာန်သက်ဝင်ယုံကြည်လော့ ) ဟူ၍ မိန့်တော်မူထားခြင်းကြောင့်တည်း။



## အခန်း(၆)

# اقسام الحديث

## ဟဒီးဆ်၏ အမျိုးအစားများအကြောင်း

ဟဒီးဆ်အမျိုးအစားများကိုမဖော်ပြမီ ယင်းနှင့်စပ်လျဉ်းသော အခေါ်အဝေါ်အသုံးအနှုန်း အချို့ကိုရေးသားဖော်ပြအံ့။

اَلرِّوَايَةُ — 'ရိဝါယသ်' ဆိုသည်မှာ 'ပြန်ပြောပြခြင်း' ကိုခေါ်သည်။ (တစ်နည်း) ကြားသိခဲ့သော သတင်းစကားကို ပြန်ပြောပြခြင်း၊ကိုလည်းကောင်း၊ ဟဒီးဆ်ဩဝါဒတော်ကိုပြောပြခြင်းကိုလည်းကောင်းခေါ်ဝေါ်သည်။

اَلرَّاوِىْ — 'ရာဝီ' ဆိုသည်မှာ 'ပြန်ပြောပြသူ' ကိုခေါ်သည်။ (တစ်နည်း) ဟဒီးဆ်တော်ကို ပြောပြသူကိုခေါ်ဝေါ်သည်။ ဤစာလုံးသည် ဧကဝုစ်ကိန်းဖြစ်သည် ဗဟုဝုစ်ကိန်းသည် **الرواة** 'ရိဝါးသု' ဖြစ်သည်။

**اَلسَّنَدُ** 'စနဒ်' ဆိုသည်မှာ ပြောပြသူအစဉ်အဆက်ကိုခေါ်ဝေါ်သည်။ ဟဒီးဆ်တော်ကို ပြန်လည်ပြောပြသူ အစဉ်အဆက်ကိုခေါ်ဝေါ်သည်။ ပြောပြသူများ၏ နာမည် အစဉ်အဆက်ကိုခေါ်ဆိုပါသည်။

**اَلْمَتَنُ** 'မသဿန်' ဆိုသည်မှာ ပြောပြသောအကြောင်းအရာကို ခေါ်ဝေါ်သည်။ ဟဒီးဆ် တော်၏ ပင်ကိုယ်စာသားကိုခေါ်ဝေါ်သည်။

**اَلدِّرَايَة** 'ဒိရာယသ်' ဆိုသည်မှာ သိရှိခြင်းကိုခေါ်သည်။ ဟဒီးဆ်ပြောပြသူရာဝီ၏ အခြေအနေအရုပ်ရုပ်ကို သိရှိခြင်းကိုခေါ်ဝေါ်သည်။

**حَدِيْث** 'ဟဒီးဆ်' ကို **خبر** 'ခဗရ်' ဟူ၍လည်းခေါ်ဝေါ်သည်။ ခဗရ်သည် ဧကဝုစ်ကိန်း ဖြစ်ပြီး၊ ဗဟုဝုစ်ကိန်းသည် **اخبار** အခ်ဗားရ် ဖြစ်သည်။

**الحديث أو الخبر** –ခဗရ် (သို့)ဟဒီးဆ်ကို ရိဝါယသ်ပြုသူများ၏ အရေအတွက်နှင့်စပ်လျဉ်း၍ ဟဒီးဆ် (သို့) ခဗရ်သည် အောက်ပါအတိုင်းနှစ်မျိုးကွဲသွားပေ၏။

(၁) **خبرالمتواتر** ခဗရ်မုသဝါသိရ် နှင့်

(၂) **خبرالآحاد** ခဗရ်အာဟားဒ် ဟူ၍ဖြစ်ပေသည်။

## (၁) الخبرالمتواتر

**المتواتر** 'မုသဝါသိရ်' ဟူသည် **تواتر** ပုဒ်မှပေါက်ဖွားလာသော အိစ်မိဖွာအိလ် စာလုံး ဖြစ်ပေသည်။ အဘိဓာန်အရ- စဉ်ဆက်မပြတ်သူအဆက်ဆက် ဟူ၍ဖြစ်ပေ သည်။ (ဥပမာ–မိုးရေသည်စဉ်ဆက်မပြတ် ဆက်တိုက်ဆက်တိုက်ကျသကဲ့သို့)

**اصطلاحا** အသုံးအနှုန်းအရ **خبرمتواتر** ဆိုသည်မှာ အကြင်ဟဒီးဆ်ကိုခေါ်ဝေါ်သည်။ ယင်းဟဒီးဆ်အား ရိဝါယသ်ပြုသူများ၏အရေအတွက်သည် ခေတ်တိုင်းခေတ် တိုင်းတွင် မည်မျှများပြားသည်ဆိုသော်၊ ၎င်းတို့သည် တညီတညွတ်တည်း မုသားပြောသည်ဟူ၍ စဉ်းစားတွေးခေါ်ရန်ပင် မဖြစ်နိုင်လောက်အောင်များပြား လှပေ၏။ (တစ်နည်း) ခေတ်တိုင်းခေတ်တိုင်းတွင် အုပ်စုကြီးတစ်ခုလုံးက စဉ်ဆက်မပြတ် ရိဝါယသ်ပြုခဲ့ကြသည့် ဟဒီးဆ်ကိုခေါ်ဝေါ်သည်။

**الخبرالمتواتر** -သည်အောက်ပါအတိုင်း နှစ်မျိုးရှိပေသည်။

(က) **المتواتراللفظى**

(ခ) **المتواترالمعنوى**

(က) **المتواتراللفظى**

**المتواتراللفظى** - ဆိုသည်မှာ အက္ခရာနှင့်အဓိပ္ပာယ်ကိုပါ တထပ်တည်း(တပုံစံတည်း) 'ရိဝါယသ်'ပြုချက်ကိုခေါ်ဝေါ်သည်။ ဥပမာ-

(من كذب على متعمدا فليتبو أمقعده من النار) رو ا دبضعة و سبعو ن صحابيا

(ခ) **المتواترالمعنوى**

**المتواترالمعنوى** - ဆိုသည်မှာ ဆိုလိုရင်းအဓိပ္ပာယ်ကိုသာ တထပ်တည်း(တပုံစံတည်း) 'ရိဝါယသ်' စဉ်ဆက်မပြတ်ပြုချက်ကိုခေါ်ဝေါ်သည်။ ဥပမာ-

مثل احاديث رفع اليدين فى الدعاء

ဒိုအာတောင်းရာတွင် လက်နှစ်ဖက်မြှောက်သည်ဟူသော ဟဒီးဆ်တော်။ ယင်းနှင့်စပ်လျဉ်း၍ ရိဝါယသ်ပြုသော ဟဒီးဆ်တော်ပေါင်းတစ်ရာ(၁၀၀)နီးနီးခန့် ရှိပေ၏။ ယင်းရိဝါယသ်များတွင် စာလုံးစာသားအားဖြင့် တထပ်တည်းတပုံစံတည်းမဟုတ်သော်လည်း၊ ဒုအာပြုရာတွင် လက်နှစ်ဖက်မြှောက်သည်ဟူသောအဓိပ္ပာယ်သည် တထပ်တည်းတပုံစံတည်းဖြစ်ပေ၏။

**الخبرالمتواتر** 'ခဗရိမုသဝါသိရ်' နှင့်စပ်လျဉ်း၍ သတ်မှတ်ထားသောစည်းကမ်းချက်များနှင့် ကိုက်ညီသည်ဖြစ်လျှင် ယင်းဟဒီးဆ်တော်ဖြင့်သိရှိရသော အကြောင်းခြင်းရာသည် အတည်ဖြစ်ပေမည်။ 'မုသဝါသိရ်' ဖြစ်သောဟဒီးဆ်ကို ရိဝါယသ်ပြုကြသူများနှင့်စပ်လျဉ်း၍ အသေးစိပ်စူးစမ်းလေ့လာရန် မလိုအပ်ချေ။
'ခဗရိမုသဝါသိရ်' ဟဒီးဆ်တော်များ အများအပြားရှိသော်လည်း၊'ခဗရိအားဟဒ်' ဟဒီးဆ်တော်များနှင့် နှိုင်းဆလျှင်အလွန်နည်းပါးပေ၏။

## (၂) خبرآحاد

**( ခဗရ်၏ဒုတိယအမျိုးအစားဖြစ်သော ‘ခဗရိအာဟာဒ်’ )**

**خبرآحاد**　‘ခဗရိအာဟာဒ်’ တွင်ရှိသော **آحاد** ‘အာဟာဒ်’ဟူသောပုဒ်သည်ဗဟုဝုစ်ကိန်းဖြစ်သည်၊ ၎င်း၏ ဧကဝုစ်ကိန်းသည် **أحد** ‘အဟဒ္ဒုန်’ ဖြစ်သည်။ အဘိဓာန်အရ– အဓိပ္ပာယ်မှာ **واحد** ‘တစ်’ဟူ၍ဖြစ်ပေသည်။

**اصطلاحا**　အသုံးအနှုန်းအရ ‘မုသဝါသိရ်’၏အဆင့်သို့ မရောက်ရှိသောဟဒီးဆ်ကိုခေါ်ဝေါ်သည်။ (တနည်း) အကြင်ဟဒီးဆ်၏ရာဝီသည် ‘မုသဝါသိရ်’ ကဲ့သို့ များပြားခြင်းမရှိလျှင် ယင်းသို့သောဟဒီးဆ်ကို ခေါ်ဝေါ်သည်။

**خبرآحاد**　၏ဧကဝုစ်ကိန်းသည် **خبرالواحد** ‘ခဗရုလ်ဝါဟစ်ဒ်’ ဖြစ်၏။

**خبرواحد** ၏မတူညီသောအချက်(၅)ချက်ကိုအခြေခံ၍ (၅)မျိုးကွဲပြားခြားနားသွားပေ၏။

### ✿ ‘ခဗရိဝါဟစ်ဒ်’(၅)မျိုးမှ ပထမ တစ်မျိုး ✿

**خبرواحد**　၏အဆုံးအစွန်း(နောက်ဆုံး)ကိုထောက်ချင့်ရခြင်းဖြင့် (၃)မျိုးရှိပေသည်။

(၁) **مرفوع**
(၂) **موقوف**
(၃) **مقطوع**

(၁) **مرفوع**　–ဟူသည် တမန်တော်မြတ်ﷺ၏ **قول** . **فعل** . **تقرير** တို့ကို ဖော်ပြထားသော ဟဒီးဆ်ကိုခေါ်ဝေါ်သည်။

(၂) **موقوف**　–ဟူသည် ဆွဟာဗီ၏ **قول** . **فعل** . **تقرير** တို့ကို ဖော်ပြထားသောဟဒီးဆ်ကိုခေါ်ဝေါ်သည်။

(၃) **مقطوع**　–ဟူသည် သာဗေအီ၏ **قول** . **فعل** . **تقرير** တို့ကို ဖော်ပြထားသောဟဒီးဆ်ကိုခေါ်ဝေါ်သည်။ ဤသည်တို့နှင့်စပ်လျဉ်း၍ အကျယ်ကိုရှင်းပြခဲ့ပြီးဖြစ်ပါသည်။

## ✿ 'ခဗရိဝါဟစ်ဒ်'၏ ဒုတိယ တစ်မျိုး ✿

ရာဝီများအရေအတွက်အား အခြေခံ၍ **خبرواحد** 'ခဗရိဝါဟစ်ဒ်' သည် (၃)မျိုးရှိပေသည်။

(၁) **المشهور**

(၂) **العزيز**

(၃) **الغريب**

(၁) **المشهور** ဟူသည် 'အိစ်မေ့မဖ့်အူးလ်' စာလုံးဖြစ်ပြီး **شهرة** ဟူသောပုဒ်မှ ပေါက်ဖွားလာခြင်းဖြစ်၏။ အဘိဓာန် အဓိပ္ပာယ်အရ– ကျော်စောထင်ရှားသော၊ ဟိုးဟိုးကျော်သော၊ သတင်းနံ့ပြားသော၊ သတင်းလွှင့်သော ဟူ၍ဖြစ်ပေသည်။

**اصطلاحا** အသုံးအနှုန်းအရ 'မရှ်ဟူးရ်'ဟူသည် ဟဒီးဆ်ကိုပြောပြသူရာဝီ၏ အရေအတွက်သည် ခေတ်တိုင်းခေတ်တိုင်း(လက်ထက်တိုင်းလက်ထက်တိုင်း)တွင် (၃)သုံးဦး (သို့)သုံးဦး ထက်ပိုမိုများပြားသော်လည်း **متواتر** ၏ အတိုင်းအတာအထိ မရောက်သော ဟဒီးဆ်ကိုခေါ်ဝေါ်သည်။

مارواه ثلاثة فأكثر فى كل طبقة مالم يبلغ حد التواتر

مشهور ကို مُسْتَفِيْضٌ ဟုလည်း ခေါ်ဝေါ်သည်။

**مشهور** 'မရှ်ဟူးရ်' ကျော်ကြားခြင်းဟူသည်နှင့်စပ်လျဉ်း၍ အဆိုအပြားပြားရှိပေ၏။ ယင်းတို့အနက် အကျော်ကြားဆုံးသည် ဟဒီးဆ်ပညာရှင်ကြီးများထံ၌သာ ကျော်ကြားသော ဟဒီးဆ်ဖြစ်ခြင်း၊ ဟဒီးဆ်ပညာရှင်များ၊ အာလင်မ်ပညာရှင်ကြီးများနှင့် လူသာမန်ပုဂ္ဂိုလ်တို့အကြား၌သာ ကျော်ကြားသောဟဒီးဆ်ဖြစ်ခြင်း ဖိုကဟ်ပညာရှင်ကြီးများထံ၌ ကျော်ကြားသောဟဒီးဆ်ဖြစ်ခြင်း၊ အိုစူးလ်ပညာရှင်ကြီးများအကြားတွင်သာ ကျော်ကြားသောဟဒီးဆ်ဖြစ်ခြင်း၊ နဟ်ဝပညာရှင်ကြီးများအကြား၌သာ ကျော်ကြားသောဟဒီးဆ်ဖြစ်ခြင်း ဟူ၍ဖြစ်ပေသည်။

(ယင်းသို့ ထင်ပေါ်ကျော်ကြားခြင်းကြောင့် ဤသို့အမည်နာမသမုတ်ရခြင်းဖြစ်ပေသည်။)

سمى بذلك لظهوره

(၂) **العزيز** ဟူသည် ကေဝုစ်ကိန်းဖြစ်ပြီး၊ ဗဟုဝုစ်ကိန်းသည် **عزاز** 'အေ့ဇား်'၊ **اعزاء** 'အအစ်ဇ်ဇားအ်'၊ **اعزة** 'အအစ်ဇ်ဇသွန်' ဟူ၍ ဖြစ်ပေသည်။ အဘိဓာန်အရ–တန်ခိုးပါဝါရှိသူ ဟူ၍လည်းကောင်း၊ ထူးဆန်းရှားပါးသော၊ တွေ့ရမြင်ရကြုံရခဲသောသူ ဟူ၍လည်းကောင်းဖြစ်ပေသည်။ ဤသည့်အပြင် အခြားသော အဓိပ္ပာယ်များတွင်လည်း အသုံးရှိချေ၏။

**اصطلاحا** အသုံးအနှုန်းအရ 'အဇီးဇ်'ဟူသည် စနဒ်၏အဆင့်တိုင်းအဆင့်တိုင်း(ခေတ်တိုင်းခေတ်တိုင်း)တွင် ရာဝီနှစ်ဦးထက်မနည်းရှိသော ဟဒီးဆ်ကိုခေါ်ဝေါ်ပါသည်။ တခါတရံ စနဒ်၏အချို့သောအဆင့်၌ ရာဝီနှစ်ဦးထက်ပိုမိုများပြားနေသည်ဖြစ်လျှင်လည်း တစုံတရာပြဿနာမရှိချေ။ သို့သော်လည်း စည်းကမ်းချက်အားဖြင့် မုချအနည်းဆုံး ရာဝီနှစ်ဦးရှိသည်ဖြစ်ရမည်။ အကယ်၍ အဆင့်တိုင်းတွင် ရာဝီနှစ်ဦးထက်ပိုမိုများပြားနေသည်ဖြစ်ပြီး၊ အဆင့်တစ်ဆင့်တည်း၌သာ ရာဝီနှစ်ဦးပါရှိသည်ဖြစ်လျှင်လည်း ယင်းသို့တစ်နေရာတည်း၌ပင်ဖြစ်စေ ပါရှိရန်ရှုရှိသို့ ဖြစ်၏။ သို့တည်းမဟုတ်လျှင်တော့ 'အဇီးဇ်' ဟူ၍ ခေါ်တွင်မည်မဟုတ်ချေ။

ان لا يقل رو اته عن اثنين فى جميع طبقات السند ـ

ان لا يو جد فى طبقة من طبقات السند أقل من اثنين

أما ان و جد فى بعض طبقات السند ثلاثة فأ كثر فلا يضر بشر ط ان تبقى و لو

طبقة و احدة فيها اثنان ـ لأن العبر ة لأقل طبقة من طبقات السند

ဤသို့ အမည်နာမသမုတ်ရခြင်းသည် တွေ့ရမြင်ရခဲသော၊ အတွေ့ရနည်းပါးသောကြောင့် ဖြစ်ပေသည်။

سمى بذلك اما لقلة و جو ده و ندر ته

(၃) **الغريب** –ဟူသည် ကေဝုစ်ကိန်းဖြစ်သည်၊ ၎င်း၏ဗဟုဝုစ်ကိန်းသည် **غرباء** ဖြစ်သည်။ အဘိဓာန်အရ– ထူးဆန်းသော၊ တနယ်တကျေးသားဖြစ်သော၊ ထူးခြားသော၊ အုံသြဖွယ်ဖြစ်သော၊ ဧည့်သည်အာဂန္တု၊ မိမိ၏ဆွေမျိုးသားချင်းများနှင့် ဝေးကွာနေသူ၊ တစ်နိုင်ငံသားစသည်ဖြစ်၍ ဟူ၍ဖြစ်သည်။

**اصطلاحا** 'ဃရီးဗ်' ဟူသည် ရိဝါယသ်ပြုသူ ရာဝီတစ်ဦးတည်းတည်ရှိနေသော ဟဒီးဆ်ကို ခေါ်ဝေါ်သည်။ ယင်းသို့ တစ်ဦးတည်းဖြစ်ခြင်းသည် 'စနဒ်'၏ အဆင့်တိုင်း အဆင့်တိုင်းတွင်ပင် တစ်ဦးစီသာရှိနေသည်ဖြစ်စေ၊ သို့တည်းမဟုတ် အချို့သောအဆင့်များ၌သာ တစ်ဦးတည်းရှိနေသည်ဖြစ်စေ (သို့မဟုတ်) 'စနဒ်'၏ အဆင့်အားလုံးတွင် တစ်ဦးထက်ပိုမိုများပြားနေပြီး၊ အဆင့်တစ်ဆင့်တည်း၌သာ တစ်ဦးတည်းရှိနေသည်ဖြစ်စေ၊ မည်သို့ပင်ဖြစ်စေ တစ်ဦးတည်းဟူ၍ပါရှိခြင်းသည်သာ အဓိကဖြစ်၏။ 'စနဒ်'၏ ကျန်သောအဆင့်များ၌ တစ်ဦးထက်ပိုမိုများပြားခြင်းသည် ပြဿနာမရှိချေ။ အဘယ့်ကြောင့်ဆိုသော် အရေအတွက်အနည်းဆုံးကိုအခြေခံ၍ ခေါ်ဝေါ်သုံးနှုန်းခြင်းကြောင့်ဖြစ်ပေသည်။

هو ماينفر دبر و ايتۂر او و احد

ای هو الحديث الذی يستقل شخص و احد - امافی کل طبقة

من طبقات السند أو فی بعض طبقات السند و لو فی طبقة و احدة

و لا تضر الزيادة عن و احد فی باقی طبقات السند - لأن العبرة للأقل

الغريب ကို اَلْفَرْدُ ဟူ၍လည်းခေါ်ဝေါ်သုံးနှုန်းပေ၏။

'ဃရီးဗ်' (သို့) 'ဖုရ်ဒ်' သည် နှစ်မျိုးရှိပေ၏။ ယင်းသို့ နှစ်မျိုးနှစ်စားဖြစ်ပေါ်လာရခြင်းသည် 'စနဒ်' ၏ အဆင့်ဆင့်တွင် ရာဝီတစ်ဦးတည်း တည်ရှိနေသည့်နေရာကို အခြေပြု၍ ဖြစ်ပေါ်လာခြင်းဖြစ်၏။

ၚင်း(၂)နစ်မျိုးမှာ–

(က) اَلْفَرْدُالْمُطْلَقُ (သို့မဟုတ်) اَلْغَرِيْبُ الْمُطْلَقُ

(ခ) اَلْفَرْدُالنِّسْبِىُّ (သို့မဟုတ်) اَلْغَرِيْبُ النِّسْبِىُّ –ဟူ၍ဖြစ်ပေသည်။

## (က) الفردالمطلق (သို့) الغريب المطلق

**الغريب المطلق الفردالمطلق** –ဟူသည် 'စနဒ်'၏ထိပ်ဆုံး အစပဋ္ဌမနေရာတွင် ရာဝီတစ်ဦးတည်း ထူးခြားစွာရှိနေခြင်းကို ခေါ်သည်။ (ဆိုလိုသည်မှာ) ဆွဟာဗီ၏နေရာနားတွင် ယင်းသို့တည်ရှိနေခြင်း၊ ဆွဟာဗီ၏ထံမှ သာဗေ့အီရာဝီ တစ်ဦးတည်းက ရိဝါယသ်ပြုသော ဟဒီးဆ်ကိုခေါ်ဝေါ်သည်။

هو ما كانت الغرابة فى أصل سنده

## (ခ) الفردالنسبى (သို့) الغريب النسبى

**الغريب النسبى الفردالنسبى** –ဟူသည် 'စနဒ်'၏ အစပဋ္ဌမတွင် ရာဝီများစွာက ရိဝါယသ်ပြုသည်ဖြစ်သော်လည်း နောက်ပိုင်းကြားအလယ်နေရာတွင် ရာဝီတစ်ဦးတည်းဖြစ်သွားသော ဟဒီးဆ်ကိုခေါ်သည်။

هو ما كانت الغرابة فى أثناء سنده

**الغريب المطلق** ကို **فرد** 'ဖ့ရ်ဒ်'ဟူ၍လည်း များသောအားဖြင့်ခေါ်ဝေါ်သည်။

**الغريب النسبى** ကို **غريب** ဟူ၍လည်းခေါ်ဝေါ်သုံးနှုန်းသည်။

**الغريبالنسبى** သည်လည်း **المتابع** 'မုသာဗေ့'နှင့် **الشاهد** 'ရှာဟစ်ဒ်'ဟူ၍ နှစ်မျိုးရှိပေသည်။

**المتابع** –ဟူသည် တူညီနေသော(အလားတူသော) ဟဒီးဆ်ကို မတူသော'စနဒ်'နှစ်ခုဖြင့် ဆွဟာဗီတစ်ပါးတည်းဘက်မှ ရိဝါယသ်ပြုထားပြီး၊ ယင်းဟဒီးဆ်၏ရာဝီများထဲတွင် ပထမစနဒ်မှရာဝီများ ဒုတိယစနဒ်ဖော်ပြချက်၌ ပြန်လည်ရောယှက်ပါဝင်နေသော ဟဒီးဆ်ကိုခေါ်ဝေါ်ပါသည်။ ယင်းသို့တူညီနေခြင်းသည် စာလုံးအားဖြင့်လည်းကောင်း၊ အဓိပ္ပာယ်အားဖြင့်လည်းကောင်း နှစ်မျိုးစလုံးတူညီနေသည်ဖြစ်လျှင် **امتلة** 'အမ့်ဆိလဟ်' ဟူ၍ခေါ်ဆိုပြီး၊ စာလုံးအနေနှင့်တူညီခြင်းမရှိပဲ၊ အဓိပ္ပာယ်အားဖြင့်သာ တူညီနေသည်ဖြစ်လျှင် 'နဟ်ဝဟ်' **نحوه** ဟူ၍ခေါ်ဝေါ်သည်။

هو الحديث الذى يشارك فيه رواته رواة الحديث الفرد لفظا و معنى

أو معنى فقط . مع الاتحاد فى الصحابى

**الشاهد** –'ရှာဟစ်ဒ်' ဟူသည် အထက်တွင်ဖော်ပြခဲ့သော **متابع** 'မုသာဗေ့' ကဲ့သို့ဟဒီးဆ်ဖြစ်ပြီး၊ ဆွဟာဗီတစ်ပါးတည်းမဟုတ်တော့ပဲ၊ ဆွဟာဗီနောက်တစ်ပါးဖြစ်နေသော ဟဒီးဆ်ကိုခေါ်ဝေါ်သည်။

هو الحديث الذى يشارك فيه رواته رواة الحديث الفرد لفظا و معنى

أو معنى فقط .مع الاختلاف فى الصحابى



## ✿ 'ခဗရိဝါဟစ်ဒ်' ၏ တတိယ အမျိုးအစား ✿

**رواة** 'ရုဝါးသ်' (ခ) 'ရိဝါယသ်' ပြုသောပုဂ္ဂိုလ်များ၏ **صفة** 'အရည်အချင်း' ကို အခြေခံ၍ **اقسام خبر** 'ခဗရိဝါဟစ်ဒ်' သည် (၁၆)တစ်ဆယ့်ခြောက်မျိုးရှိပေ၏။

၎င်းတို့မှာ–

| | | |
|---|---|---|
| (၁) صحيح لذاته | (၂) حسن لذاته | (၃) ضعيف |
| (၄) صحيح لغيره | (၅) حسن لغيره | (၆) موضوع |
| (၇) متروك | (၈) شاذ | (၉) محفوظ |
| (၁၀) منكر | (၁၁) معروف | (၁၂) معلل |
| (၁၃) مضطرب | (၁၄) مقلوب | (၁၅) مصحف |

(၁၆) مدرج –ဟူ၍ ဖြစ်ပေ၏။

၎င်းတို့ တစ်ခုချင်းစီကို အောက်တွင်ရှင်းလင်းရေးသားဖော်ပြပါအံ့။

### (၁) الصحيح لذاته

**الصحيح** –'ဆွဟီးဟ်' ဟူသည် **سقيم** 'စကီးမ်'ဟူသောပုဒ်(စာလုံး)၏ ဆန့်ကျင်ဘက်စာလုံးဖြစ်၏။ အဘိဓာန်အရ– မချွတ်ယွင်းသော၊ မချို့တဲ့သော၊ ပြီးပြည့်စုံသော အပြစ်အနာကင်းသော ဟူ၍ဖြစ်လေသည်။

**لذاته** –ဟူသည် အက္ခရာနှင့်နာမ်စားပေါင်းစပ်ထားသော စာလုံးဖြစ်ပြီး၊ **ذات** 'ဇားသ်' ၏ အဓိပ္ပာယ်သည်– ကိုယ်တိုင်၊ နဂို၊ မူလ၊ ပင်ကိုယ် ဟူ၍ဖြစ်ရာ၊ ယင်းစာလုံးကို 'သူကိုယ်တိုင်ကပင်'၊ 'သူ့နဂိုကပင်'၊ 'သူ့ပင်ကိုယ်မူလကပင်' ဟူ၍သာ အဓိပ္ပာယ်ဖွင့်ဆိုရပေလိမ့်မည်တည်း။

ထို့ကြောင့် **الصحيح ضابط** ၏အဓိပ္ပာယ်သည်– 'သူကိုယ်တိုင်ကပင် အပြစ်အနာကင်းသောသူ' ဟူ၍ ဖြစ်ပေမည်။

**اصطلاحا** –အသုံးအနှုန်းအရ– **عادل** 'အာဒိလ်' ဖြစ်သော၊ **كامل الضبط** 'ကားမိလုသ်သွာဗ္ဗသို့' ဖြစ်သော၊ ၎င်းတို့၏ **سند** 'စနဒ်'သည် **متصل** 'မွတ်သ်သဆွေ့လ်' ဖြစ်သော၊ **معلل** 'မုအလ်လလ်' မဟုတ်သော၊ **شاذ** 'ရှားဇ်' မဟုတ်သော၊ **منكر** 'မွန်ကရ်' မဟုတ်သော စသည့် အပြစ်အနာအဆာချွတ်ယွင်းမှုများမှ ကင်းစင်သော၊ အရည်အချင်းပြည့်စုံသောရာဝီများက ရိဝါယသ်ပြုသော 'ဟဒီးဆ်'ကို ခေါ်ဝေါ်ပါသည်။

**عادل** –'အာဒိလ်' ဟူသည် မုသားပြောခြင်း၊ လိမ်လည်ပြောသည်ဟု စွဲချက်အတင်ခံရဘူးခြင်း၊ ပြစ်မှုဒုစရိုက်ကျူးလွန်သူ **فاسق** 'ဖာစိက်' ဖြစ်ခြင်း၊ 'ဂျာဟိလ်' ပညာမဲ့ဖြစ်ခြင်း 'ဗိဒ်အသ်' တရားသစ်တီထွင်သူဖြစ်ခြင်း စသည့်ချွတ်ယွင်းချက်များမှ ကင်းစင်သန့်ရှင်းသူကိုခေါ်သည်။

**كامل الضبط**
**تام الضبط** –ဟူသည် အတိုင်းထက်အလွန်မှားယွင်းခြင်း၊ သတိမေ့လျော့ခြင်း၊ ထင်ရှောင်ထင်မှား ဇဝေဇဝါဖြစ်ခြင်း၊ ဆေ့ကဟ်(ယုံကြည်စိတ်ချရသောသူ)နှင့် ဆန့်ကျင်ဘက်ဖြစ်နေခြင်း၊ မှတ်သားဉာဏ်မကောင်းခြင်း စသည့်ချွတ်ယွင်းချက်များမှလွတ်ကင်းသူကို ခေါ်ဝေါ်သည်။ (နောက်တစ်နည်း) ရိဝါယသ်ကို ကောင်းစွာကျက်မှတ်ထိန်းသိမ်းထားပြီး လိုအပ်သည့်အခါတွင် မဆိုင်းမတွ မထစ်မငေါ့ရွတ်ဖတ်ပြနိုင်သူကိုလည်းခေါ်သည်။

**ضبط** ယင်းသို့ ကျက်မှတ်ထိန်းသိမ်းထားခြင်းနှင့်စပ်လျဉ်း၍ **ضبط صدر** 'သွဗ်သွေ့ဆွဒရ်' (ရင်ဘတ်၌ ကျက်မှတ်ထိန်းသိမ်းထားခြင်း) နှင့် **ضبط كتابت** 'သွဗ်သွေ့ကေ့သာဗသ်' (ရေးမှတ်ထိန်းသိမ်းထားခြင်း) ဟူ၍လည်းရှိပေ၏။

**سند** 'စနဒ်' ဆိုသည်မှာ ဆရာစဉ်ဆက်အဆင့်ဆင့်ကို ကိုးကားဖော်ပြခြင်းကို ခေါ်သည်။ ရာဝီ (ပြောပြသူ) အဆင့်ဆင့်ကိုခေါ်သည်။

**متصل** 'မွတ်သ်သဆွေ့လ်' ဟူသည် စနဒ်ဖော်ပြရာတွင် ကြားအလယ်၌ရာဝီတစ်ဦး

တစ်ယောက်မျှပင် လစ်လပ်ကြွင်းကျန်မနေပဲ အစမှအဆုံးထိရာဝီအဆင့်ဆင့်ကို တဆက်တည်းဖော်ပြထားသော ဟဒီးဆ်ကိုခေါ်သည်။
(မှတ်ချက်-ဤသည်တို့နှင့်စပ်လျဉ်း၍ အသေးစိတ်ကို ان شاء الله သီးခြားဖော်ပြပါမည်။)

## (၂) الحسن لذاته

**الحسن لذاته** 'အလ်ဟစနု'ဟူသည် အဘိဓာန်အဓိပ္ပာယ်အရ- လှပသော၊ တင့်တယ်သော ဟူ၍ဖြစ်ပေသည်။

**اصطلاحا** -အသုံးအနှုန်းအရ 'အလ်ဟစနု' ဟူသည် 'ဆွဟီးလေ့ဇားသေ့ဟီ' တွင်ပါရှိသော စည်းကမ်းချက်များအနက်မှ စည်းကမ်းချက်တစ်ခုဖြစ်သော **ضبط** 'သွါဗ်သွ်' တစ်ခုသာချို့တဲ့ပြီး ကျန်အရည်အချင်းအားလုံးနှင့် ပြည့်စုံသော ရာဝီကပြောပြသော ဟဒီးဆ်ကိုခေါ်သည်။
ဤဟဒီးဆ်သည် ဆွဟီးဟ်နှင့် သွအီးဖ်၏ ကြားအဆင့်တွင်ရှိသည်နှင့် စပ်လျဉ်း၍ ပညာရှင်များအဆိုအပြားပြားရှိ၏။

اختلفت أقوال العلماء فى تعريف الحسن نظر الأنه متوسط بين الصحيح و الضعيف

قال ابن حجر - خبر الآحاد بنقل عدل تام الضبط متصل السند غير معلل

و لاشاذ هو الصحيح لذاته - فان خف الضبط فالحسن لذاته

## (၃) الضعيف

**الضعيف** -ဟူသည် **قوى** ဟူသောပုဒ်၏ ဆန့်ကျင်ဘက်စာလုံးဖြစ်သည်။ အဘိဓာန်အရ- အားနည်းသော၊ အားလျော့သော၊ နုံနဲ့သော၊ အရည်အချင်းမရှိသော ဟူ၍ ဖြစ်ပေသည်။

**اصطلاحا** –အသုံးအနှုန်းအရ 'ဆွအီးဖ်' ဟူသည်(ဆွဟီးဟ်နှင့်) 'ဟစန်' ဖြစ်သော ဟဒီးဆ်တွင်ပြဋ္ဌာန်းထားသော ရှရ်သွ်စည်းကမ်းချက်များအားလုံး(သို့) စည်းကမ်းချက်တစ်ချက် ချို့တဲ့နေသော၊ အရည်အချင်းမပြည့်မှီသော ရာဝီကပြောပြသော ဟဒီးဆ်ကိုခေါ်ပါသည်။ ဥပမာ– ရာဝီသည်မုသားစကားပြောသူဖြစ်သော်၊ ဖွာစစ်က် ဖြစ်သော (သို့) မှတ်သားဉာဏ်မကောင်းသူဖြစ်သော် (သို့) သူ၏စနဒ်ဖော်ပြချက်တွင် အဆက်ပြတ်နေသည်ဖြစ်သော် ဤသို့ခေါ်ဝေါ်ပေ၏

الضعيف . هو مالم يجمع صفة الحسن بفقد شر ط من شر و طه

## (၄) الصحيح لغيره

**الصحيح لغيره** –'ဆွဟီးဟ်လေ့ဂိုင်ယ်ရိဟီ' ဟူသည်အဓိပ္ပာယ်အရ– အခြားသူများအတွက်ကြောင့်သူသည် အပြစ်အနာကင်းသူဖြစ်ရခြင်း ဟူ၍ဖြစ်ပေသည်။

**اصطلاحا** –အရ 'ဆွဟီးဟ်လေ့ဂိုင်ယ်ရိဟီ' ဟူသည် 'ဆွဟီးဟ်လေ့ဇားသေ့ဟီ' တွင်ဖော်ပြထားသည့်စည်းကမ်းချက်များနှင့် မညီညွတ်သော 'ဟစန်လေ့ဇားသေ့ဟီ' ဟဒီးဆ်ကိုပင် ခေါ်ဆိုပါသည်။ သို့သော် 'ဟစန်လေ့ဇားသေ့ဟီ' ၏စနဒ်ဖော်ပြရာတွင် ချို့တဲ့နေသောရာဝီ၏ ချို့တဲ့ချက်ကို သူ့ထက်ပိုမိုယုံကြည်စိတ်ချရသော အခြားရာဝီများက သူ့ကဲ့သို့အလားတူဟဒီးဆ်ကို အခြားသောစနဒ်ဖော်ပြချက်များဖြင့် ထပ်မံဖော်ပြကြခြင်းကြောင့် သူ၏ဖော်ပြချက်ကို ကူညီဖြည့်ဆည်းပေးသကဲ့သို့ဖြစ်ခြင်းကြောင့် ဤသို့ခေါ်ဝေါ်သမုတ်ထားသော ဟဒီးဆ်ကိုခေါ်ပါသည်။
ဤဟဒီးဆ်သည် 'ဟစန်လေ့ဇားသေ့ဟီ' ထက်ပိုမိုအဆင့်အတန်းမြင့်ပေ၏။

هو الحسن لذاته اذا روى من طريق اخر مثله أو أقوى منه
و سمى صحيحا لغيره لأن الصحة لم تأت من ذات السند و انما جاءت
من انضمام غيره له . هو أعلى مرتبة من الحسن لذاته

## (၅) الحسن لغيره

**الحسن لغيره** –'အလ်ဟစန်လေ့ဂိုင်ယ်ရိဟီ' ဟူသည် အဓိပ္ပါယ်အရ– အခြားသူကြောင့် သူသည် တင့်တယ်သူဖြစ်ခြင်း ဟူ၍ဖြစ်ပေ၏။

**اصطلاحا** –အရ 'ဟစန်လေ့ဂိုင်ယ်ရိဟီ' ဟူသည် ရာဝီ၏ ပြစ်မှုဒုစရိုက်ကျူးလွန်ခြင်းကြောင့်သော်လည်းကောင်း၊ မုသားပြောခြင်းကြောင့်သော်လည်းကောင်း၊ သွအီးဖ့်ဖြစ်သွားရခြင်းမဟုတ်ပဲ၊ အခြားအကြောင်းကြောင့်သာ သွအီးဖ့် ဖြစ်သော ဟဒီးဆ်ကိုခေါ်သည်။ ယင်းသွအီးဖ့်နှင့်အလားတူကို သူထက်ပိုမိုစိတ်ချရသည့် အခြားသောရာဝီများက အသွင်ပုံစံအမျိုးမျိုးဖြင့် ရိဝါယသ်ပြုခြင်းကြောင့် ယင်းရာဝီ၏အားနည်းချက်ကို ဖြည့်စွမ်းပေးသကဲ့သို့ဖြစ်ရာ၊ သွအီးဖ့်သည် မိမိ၏မူလအဆင့်ထက် တဆင့်မြင့်လာခြင်းကြောင့် ဤသို့အမည်နာမ သမုတ်ထားရခြင်းဖြစ်ပေ၏။

'ဟစန်လေ့ဂိုင်ယ်ရိဟီ' သည် 'ဟစန်လေ့ဇားသေ့ဟီ' နှင့်နှိုင်းယှဉ်လျှင် အဆင့်နိမ့်ပေ၏။

الحسن لغيره هو الضعيف اذا تعددت طرقه ولم يكن سبب ضعفه فسق الراوى

أو كذبه ـ الحسن لغيره أدنى مرتبة من الحسن لذاته

## (၆) الموضوع

**الموضوع** –'အလ်မောင်ဝ်သူးအ်' ဟူသည် အဓိပ္ပာယ်အရ– ထားခြင်းခံရသူ၊ ချထားခြင်းခံရသူ ဟူ၍ဖြစ်ပေ၏။

**اصطلاحا** –အသုံးအနှုန်းအရ 'မောင်ဝ်သူးအ်' ဟူသည် မဟုတ်မမှန်လုပ်ကြံဖန်တီးပြီး တမန်တော်မြတ်က ဤသို့ပြောပါသည်ဟူ၍ လိမ်လည်ဆက်စပ်ပြောပြသော ဟဒီးဆ်ကိုခေါ်သည်။ တမန်တော်မြတ်ဘက်သို့ လိမ်လည်ယိုးစွပ်ပြောကြားခြင်းကြောင့် ကဲ့ရဲ့ပြစ်တင်ရှုတ်ချခံရသောရာဝီ၏ မုသားပြောဆိုချက်ကိုခေါ်ပါသည်။ (ဟဒီးဆ် အတုကိုခေါ်သည်။)

هو اللكذب المختلق المصنوع المنسوب الى رسول الله ﷺ

## (၇) المتروك

**المتروك** –ဟူသည် اَلتَّرْكُ ဟူသောပုဒ်မှ ဆင်းသက်လာသော အိစ်မေ့မဖ့်အူးလ် စာလုံးဖြစ်ပြီး၊ အဘိဓာန်အရ– စွန့်လွှတ်ထားသော၊ ပစ်ပယ်ထားသော ဟူ၍ဖြစ်ပေသည်။ အရပ်တို့က အကောင်ပေါက်ပြီးနောက်ကျန်သော ဥအခွံများကို **التريكه** (အသ်သရီကဟ်)ဟုပင် အမည်နာမသမုတ်ကြ၏။ ဆိုလိုသည်က မည်သို့မျှ အသုံးမဝင်သောကြောင့် စွန့်ပစ်ထားခြင်းကိုဆိုလိုသည်။

**اصطلاحا** –အရ စနဒ်ဖော်ပြချက်တွင်ပါရှိသောရာဝီသည် ဟဒီးဆ်မှအပ အခြားသော ကိစ္စရပ်များ၌ မုသားပြောခြင်းကြောင့် စွဲချက်အတင်ခံရဘူးသူဖြစ်ခြင်းကြောင့် ဤသို့အမည်နာမသမုတ်ထားသော ဟဒီးဆ်ကိုခေါ်သည်။ (သို့) ရာဝီသည် သာသနာရေးရာနှင့်စပ်လျဉ်း၍ ပြဋ္ဌာန်းထားသော စည်းမျဉ်းဥပဒေများနှင့် ဆန့်ကျင်နေခြင်းကြောင့် ဤသို့ခေါ်ဝေါ်ခြင်းဖြစ်၏။

هو الحديث الذى فى اسناده ر او متهم بالكذب

မသ်ရူးက်၏အဆင့်သည် မောင်ဝ်သွူးအ်နှင့် နီးကပ်လျက်ရှိ၏။

## (၈) شاذ

**شاذ** –ဟူသည် ' **شذ** ' ဟူသောပုဒ်မှ ပေါက်ဖွားလာသော 'အိစ်မိဖ့်ာအိလ်' ဖြစ်ပြီး အဘိဓာန်အရ– နည်းမကျသော၊ နည်းဥပဒေနှင့်ဆန့်ကျင်သော၊ အများတကာနှင့်ဆန့်ကျင်သော၊ တစ်ယောက်ထီးတည်းဖြစ်နေသူ ဟူ၍ဖြစ်ပေ၏။

فالشاذ معناه المنفرد عن الجمهور

**اصطلاحا** –အရ အကြောင်ဟဒီးဆ်ကိုခေါ်သည်၊ ယင်း၏ရာဝီသည် သူကိုယ်တိုင်‘ဆေ့ကဟ်’ (ယုံကြည်စိတ်ချရသူ) ဖြစ်နေသော်ငြားလည်း၊ သူ့ထက်ပိုမို ‘ယုံကြည်စိတ်ချရသော’ (ဆေ့ကဟ်ဖြစ်သော) အုပ်စုကြီးနှင့် ဆန့်ကျင်နေသည်ဖြစ်၏။

ماروا ه المقبول مخالفا لمن هو أولى منه

## (၉) المحفوظ

**المحفوظ** –ဟူသည် အိစ္စမိမဖ့်အူးလ် စာလုံးဖြစ်ပြီး၊ အဘိဓာန်အရ– စောင့်ထိန်းထားသော၊ ထိန်းသိမ်းထားသော၊ စောင့်ရှောက်ထားသော၊ သိမ်းဆည်းခံရသော ဟူ၍ဖြစ်ပေသည်။

**اصطلاحا** –အရ ‘မဟ်ဖှူးဇ်’ ဟူသည် **شاذ** ‘ရှားဇ်’ နှင့်ဖီလာဖြစ်သောဟဒီးဆ်ကိုခေါ်သည် ဆိုလိုသည်မှာ –ဆေ့ကဟ်ဖြစ်သော ရာဝီ၏ရိဝါယသ်ကို သူ့ထက်ပိုမိုစိတ်ချရသောရာဝီက ဆန့်ကျင်၍ရိဝါယသ်ပြုသော ဟဒီးဆ်ကိုဆိုလိုခြင်းဖြစ်၏။

هذا و يقابل الشاذ المحفوظ وهو ماروا ه الأوثق مخالفا لرواية الثقة

‘ရှားဇ်’ သည် **مردود** ‘မရ်ဒူးဒ်’ ဖြစ်သောအုပ်စုမှဖြစ်ပြီး၊ **محفوظ** ‘မဟ်ဖှူးဇ်’ သည် **مقبول** ‘မတ်ကဘူးလ်’ ဖြစ်သော ဟဒီးဆ်အုပ်စုမှဖြစ်၏။

## (၁၀) المنكر

**المنكر** –ဟူသည် **الإنكار** ဟူသောပုဒ်မှပေါက်ဖွားလာသော အိစ္စမိမဖ့်အူးလ် စာလုံးဖြစ်ပြီး၊ အဘိဓာန်အရ– ငြင်းဆိုခြင်းခံရသော၊ ပစ်ပယ်ခံရသော၊ ငြင်းပယ်ခံရသော ဟူ၍ဖြစ်ပေ၏။

**اصطلاحا** –အရ ဟာဒီးဆ်မွန်ကရ် နှင့်စပ်လျဉ်း၍သိရှိနိုင်ရန် ပညာရှင်ကြီးများ၏ ဖွင့်ဆို မှတ်တမ်းတင်ထားချက်များ အများအပြားရှိ၏။ ယင်းတို့အနက်မှအကျော်ကြား ဆုံးဖွင့်ဆိုချက်နှစ်ခုသည် အောက်ပါအတိုင်းဖြစ်၏။

(၁) အကြင် ဟာဒီးဆ်၌ဖော်ပြသောစနဒ်တွင် ပါရှိသောရာဝီသည် အတိုင်းထက် အလွန် စည်းမဲ့ကမ်းမဲ့မှားယွင်းသော၊ များးစွာမေ့လျော့ပေါ့ဆသော၊ ပြစ်မှုကျူး လွန်ခြင်းထင်ရှားသောသူဖြစ်နေခြင်းတည်း။

(၂) ထိုဟာဒီးဆ်တွင်ပါရှိသောရာဝီသည် မိမိကိုယ်တိုင်ကပင် သွအီးဖ်ဖြစ်နေ ပါလျက်၊ မိမိထက်ပိုမိုဆေ့ကဟ်ဖြစ်သူနှင့် ဆန့်ကျင်၍ရိဝါယသ်ပြုခြင်း။

هو الحديث الذى فى اسناده او فحش غلطه او كثرت غفلته او ظهر فسقه (١)

وهو ماروا ه الضعيف مخالفا لمار و اه الثقة　(٢)

## (၁၁) المعروف

**المعروف** –ဟူသည် 'အိစ္စမိမဖ့်အူးလ်' စာလုံးဖြစ်ပြီး၊ အဘိဓာန်အရ– ကောင်းစွာသိခံရ သော၊ အများကြားသိကြသော၊ လူသိများသော၊ ကျော်စောသော ဟူ၍ ဖြစ်ပေ ၏။

**اصطلاحا** –အရ 'မအ်ရူးဖ်' ဟူသည် **منكر** 'မွန်ကရ်'နှင့် ဗီလာဖြစ်သောဟာဒီးဆ်ကိုခေါ် ဝေါ်သည်။ ဆိုလိုသည်က သွအီးဖ် ဖြစ်သောရာဝီနှင့်ဆန့်ကျင်၍ ဆေ့ကဟ် ဖြစ်သောရာဝီက ရိဝါယသ်ပြုသော ဟာဒီးဆ်ကိုဆိုလိုခြင်းဖြစ်၏။

ماروا ه الثقة مخالفا لمار و اه الضعيف - فهو بهذا المعنى مقابل للمنكر



## (၁၂) المعلل او المعلول

**المعلول** –'မုအလ္လ်လ် (သို့) မအ်လူးလ်' သည် အိစ်မိမဖ့်အူးလ် စာလုံးဖြစ်ပြီး၊ အဘိဓာန်အရ– ရောဂါရှိနေသော၊ မကျန်းမာသော၊ ချူချာသော၊ အကြောင်းခံရှိနေသော စသည့်ဖြင့် အဓိပ္ပာယ်အမျိုးမျိုးရှိပေ၏၊

**اصطلاحا** –အရ ထိုဟဒီးဆ်ကိုခေါ်ပါသည်။ ယင်းဟဒီးဆ်တွင် အပေါ်ရုံအားဖြင့်မည်သည့်ပြစ်ချက်မှမရှိသကဲ့သို့ ထင်ရသော်လည်း၊ ပြစ်ချက်သည် ဖုံးအုပ်ပျောက်ကွယ်လျက်ရှိနေပေသည်၊ ယင်းပြစ်ချက်သည် ဟဒီးဆ်မှန်ကန်မှုကို လျော့နည်းစေသည့် အကြောင်းခံတစ်ရပ်ဖြစ်ပေ၏။ ဥပမာ– ဟဒီးဆ်၏ရာဝီသည် **ضبط** တွင်အားနည်းနေခြင်းကြောင့် ထင်ယောင်ထင်မှား ဇဝေဇဝါဖြစ်နေပြီး၊ **موقوف** ကို **مرفوع** ဖြစ်သည်ဟူ၍ အပြောင်းအလဲလုပ်လျက်ပြောကြားခြင်း စသည့်ဖြင့်။ ဤသို့သောရောဂါကို သိအောင်ရှာဖွေခြင်းမှာ ကျွမ်းကျင်သောပညာရှင်ကြီးများ၏အလုပ်သာဖြစ်ပေ၏။ လူတိုင်း၏အလုပ်မဟုတ်ချေ။

هو الحديث الذى اطلع فيه على علة تقدح فى صحته مع ان الظاهر السلامة منها

## (၁၃) المضطرب

**المضطرب** –'အလ်မွတ်သွ်သွရိဗ်' ဟူသည် အိစ်မိဖ့ာအိလ် စာလုံးဖြစ်ပြီး၊ အဘိဓာန်အရ– လှုပ်ရှားနေသူ၊ ရောယှက်ရှုပ်ထွေးနေသူ၊ လှိုင်းထနေသူ၊ လှုပ်ရှားမှုများခြင်းကြောင့် လှိုင်းလုံးများတစ်ခုနှင့်တစ်ခု ရိုက်ခတ်နေသကဲ့သို့ ရောယှက်နေခြင်းဟူ၍ဖြစ်ပေသည်။

**اصطلاحا** –အရ 'အလ်မွတ်သွ်သွရိဗ်' ဟူသည် 'စနဒ်'အမျိုးမျိုး 'မသာန်'စာသားအမျိုးမျိုး၊ ပုံစံအမျိုးမျိုးဖြစ်သော၊ ခိုင်မာမှုတွင်လည်း ဘက်စုံတူညီနေသော၊ တစ်ခုနှင့်တစ်ခုသည်လည်း တွန်းလှန်လျက်ရှိသော၊ အားလုံးကိုစုပေါင်းရန်လည်း မဖြစ်နိုင်သော ဟဒီးဆ်ကိုခေါ်ဝေါ်သည်။ ယင်းသို့ရောယှက်ရှုပ်ထွေးနေခြင်းသည် စနဒ်များ၌ ပိုမိုဖြစ်ပေါ်လေ့ရှိ၏။

ماروى على أوجه مختلفة متساوية فى القوة - أى هو الحديث الذى يروى على أشكال متعارضة متدافعة بحيث لا يمكن التوفيق بينها أبدا - وتكون جميع تلك الروايات متساوية فى القوة من جميع الوجوه بحيث لا يمكن ترجيح احداهما على الأخرى بوجه من وجوه الترجيح - مضطرب السند ومضطرب المتن ووقوع الاضطراب فى السند اكثر

## المقلوب (၁၄)

**المقلوب** –ဟူသည် **قلب** 'ကလ်ဗ်' ဟူသော စကားလုံးမှပေါက်ဖွားလာသော အိစ်မိမဖ့်အူးလ် စကားလုံးဖြစ်ပြီး၊ အဘိဓာန်အရ– ပြောင်းပြန်လှန်ထားသော၊ ရှေ့နောက်ပြောင်းလဲထားသော၊ နောက်သို့လှည့်ထားသော၊ အထက်အောက်ပြောင်းပြန်လှန်ထားသော ဟူ၍ဖြစ်ပေ၏။

**اصطلاحا** –အသုံးအနှုန်းအရ ဟဒီးဆ်၏စနဒ် (သို့မဟုတ်) မသနိတွင် မေ့မှားပြီးရှေ့နောက်အပြောင်းအလဲဖြစ်သွားခြင်း၊ ဆိုလိုသည်က ရှေ့ကစာလုံးကိုနောက်သို့၊ နောက်ကစာလုံးကိုရှေ့သို့၊ ဥပမာ– **مرة بن كعب** ကို **كعب بن مرة** ဟူ၍လည်းကောင်း၊ ရာဝီတစ်ဦး၏နေရာတွင် အခြားရာဝီတစ်ဦးကိုထားလိုက်မိခြင်း၊ ဥပမာ– **عن سالم** ကို **عن نافع** ဟူ၍ ပြောင်းလဲထားသော ဟဒီးဆ်ကိုခေါ်ဝေါ်သည်။ အကယ်၍ ယင်းသို့ပြောင်းလဲခြင်းသည် လူတွေစိတ်ပါဝင်စားစေရန်နှင့် သူ၏ရိဝါယသ်ကို လက်ခံရယူစေရန်ရည်ရွယ်၍ ပြုလုပ်ခြင်းဖြစ်လျှင်တော့ လုံးဝခွင့်မပြုပါ။ ဟဒီးဆ်ပညာရှင်ပါရဂူကြီးများ၏ ဟဒီးဆ်အားကျက်မှတ်

ထိန်းသိမ်းထားသောစွမ်းရည်ကို လေ့လာလိုသောကြောင့် ဤသို့ပြောင်းလဲပြော ပြခြင်းသည် ကိစ္စမရှိပါ။ သို့သော်လည်း ထိုသည့်နောက် ဟဒီးဆ်ပညာရှင်ကြီး များအနားမှ ပြန်လည်မထွက်ခွာသွားမီ အမှန်ကိုပြောပြရန် ရှိသင့်ဖြစ်၏။

أبدل لفظ بآخر فى سند الحديث أو متنه بتقديم أو تأخير و نحوه

مقلوب السند وهو ما وقع الابدال فى سنده

مقلوب المتن . وهو ما وقع الابدال فى متنه

## (၁၅) **المصحف**

**المصحف** -ဟူသည် **التصحيف** ဟူသောပုဒ်မှ ဆင်းသက်ဖြစ်ပေါ်လာသော အိစ်မိမဖ့် အူးလ် ဖြစ်ပြီး အဘိဓာန်အရ- အမှားရွတ်ဖတ်ခံရသော၊ တလွဲတချော်ရွတ်ဖတ် ခံရသူ ဟူ၍ဖြစ်ပေသည်။

**اصطلاحا** -အရ **المصحف** ဟူသည် ရေးသားထားသော စာလုံးချင်းတူညီသော်လည်း နွတ်ကဲ်သွဟ် (သို့) ဇဗရ်- ဇေ - ပေးရှိ ပြောင်းသွားခြင်းကြောင့် စာလုံးတွင် မှားယွင်းမှုဖြစ်ပေါ်လာခြင်း၊ ဥပမာ- **العوام ابن مراجم** ကို **العوام بن مزاحم** ဟူ၍ နွတ်ကဲ်သွဟ်ပြောင်းလဲသွားခြင်း။ **أُبَسٌ** ကို **ابس** အဇီဟူ၍ ပြောင်းသွား ခြင်း စသည်ဖြင့်ဖြစ်ပေါ်နေသည့် ဟဒီးဆ်ကိုခေါ်ဝေါ်သည်။ အကယ်၍ အက္ခရာပုံစံပါပြောင်းလဲသွားသည်ဖြစ်လျှင် **محرف** 'မုဟာရ်ရဖ့်' ဟူ၍ခေါ်ဝေါ်၏

المصحف . وهو ما كان التغيير فيه بالنسبة الى نقط الحروف مع بقاء صورة الخط

المحرف . وهو ما كان التغيير فيه بالنسبة الى شكل الحروف مع بقاء صورة الخط

## (၁၆) المدرج

**المدرج** –'အလ်မုဒ်ရဂ်'ဟူသည် အိစ်မေ့မဖ်အူးလ် ဖြစ်ပြီး **أدرج** မှဆင်းသက်ဖြစ်ပေါ်လာသောပုဒ်ဖြစ်၏။ အဘိဓာန်အရ– ပါဝင်စေခြင်းခံရသော၊ အပါအဝင်ဖြစ်သော၊ ထည့်သွင်းထားသော ဟူ၍ဖြစ်ပေ၏။

**اصطلاحا** ဟူသည် အကြင်ဟဒီးဆ်၏ စနဒ်တစ်နေရာရာတွင်ရှိသော'ရာဝီ'သည် အကျယ်တဝင့်ရှင်းပြသည့်အနေဖြင့် မိမိစကားကို(သို့) အခြားရာဝီတစ်ဦးဦး၏စကားကိုဖြစ်စေ(သို့) သာဗေ့အီတစ်ဦးဦး၏ စကားကိုဖြစ်စေ ထည့်သွင်းပြောကြားသောဟဒီးဆ်ကိုခေါ်သည်။ (သို့တည်းမဟုတ်) စနဒ်နှစ်ခုဖြင့် သီးခြားစီဖော်ပြထားသော ဟဒီးဆ်ကိုခေါ်ဝေါ်၏။ ယင်းသို့ထည့်သွင်းဖော်ပြခြင်းသည်လည်း တစ်စုံတစ်ရာ ခွဲခြားဖော်ပြထားသည်မဟုတ်ရာ၊ သူ့ဘက်မှပြောစကားသည် သူကြားသိခဲ့သောစကားဟု ထင်မှတ်ရပေ၏။

ماغير سياق اسناده - أو أدخل فى متنه ماليس منه بلا فصل

ဤတွင် ခဗရိဝါဟစ်ဒ်၏ တတိယအမျိုးအစားဖြစ်သော ရိဝါယသ်ပြုသူပုဂ္ဂိုလ်များ၏ အရည်အချင်းနှင့်စပ်လျဉ်းသည့် အကြောင်းအရာများပြီး၏။



## ✿ ခဗရိဝါဟတ်ဒ်၏ စတုတ္ထ အမျိုးအစား ✿

ရာဝီတဆက်တည်းရှိနေခြင်း၊ ရာဝီပြုတ်ကျန်ရစ်ခဲ့ခြင်းနှင့်စပ်လျဉ်း၍ ခဗရိဝါဟတ်ဒ်သည် (၇)ခုနှစ်မျိုးရှိ၏။ ၎င်းတို့မှာ-

(၁) متصل　　(၂) مسند　　(၃) منقطع

(၄) معلق　　(၅) معضل　　(၆) مرسلا

(၇) مدلس　-ဟူ၍ ဖြစ်ကြပေသည်။

၎င်း(၇)မျိုးထဲမှ တစ်ခုချင်းစီနှင့်စပ်လျဉ်းသော ရှင်းလင်းချက်သည် အောက်ပါအတိုင်းဖြစ်၏။

### (၁) المتصل

**المتصل** -'အလ်မတ်သ်သဆွိလ်' ဟူသည် အိစ်မိဖှာအိလ်ဖြစ်ပြီး အဘိဓာန်အရ-ဆက်တွဲနေသူ၊ တဆက်တည်းရှိနေသူ၊ ပြတ်တောက်နေခြင်းမရှိသူ ဟူ၍ဖြစ်ပေ၏။ ၎င်းကို **الموصول** 'အလ်မောင်ဝ်ဆွူုလ်' ဟုလည်းခေါ်သည်။

**اصطلاحا** -အရ 'မွတ်သ်သဆွိလ်' ဟူသည် တမန်တော်မြတ်ﷺ အထိ(သို့) ဆွဟာဗီအထိ စနဒ်ကိုတဆက်တည်းဖော်ပြထားသော ဟဒီးဆ်ကိုခေါ်သည်။ ယင်းစနဒ်တွင် ရာဝီတစ်ဦးတစ်ယောက်မှပင် ပြုတ်ကျန်ရစ်ခဲ့ခြင်းမရှိချေ၊

ما اتصل سنده مرفوعا كان أو موقوفا

## (၂) المسند

**المسند** –'အလ်မွတ်စ်နဒ်' ဟူသည် အိစ်မိမဖ်အူးလ် စာလုံးဖြစ်ပြီး အဘိဓာန်အရ– အခိုင်အမာပြောခံရသော၊ အခိုင်အမာပြောဆိုချက်ကိုခေါ်ဝေါ်သည်။

**اصطلاحا** –အရ တမန်တော်မြတ်ﷺ အထိစနဒ်ကို အစမှအဆုံးထိ တဆက်တည်းဖော်ပြထားသော ဟဒီးဆ်ကိုခေါ်သည်။

ما اتصل سنده مرفوعا الى النبى صلى الله عليه وسلم

## (၃) المنقطع

**المنقطع** –'အလ်မွန်ကသွိအို' ဟူသည် အိစ်မိဖှာအိလ် စာလုံးဖြစ်ပြီး၊ အဘိဓာန်အရ– ပြတ်တောက်နေသူ၊ အဆက်ပြတ်နေသူ၊ တဆက်တည်းမဟုတ်သူ ဟူ၍ဖြစ်ပေ၏။

**اصطلاحا** –အရ စနဒ်၏ အစပိုင်း၌ပြတ်တောက်နေသည်ဖြစ်စေ၊ အလယ်တွင်ဖြစ်စေ၊ မည်သို့ပင်ပြတ်တောက်နေသည်ဖြစ်စေ၊ တဆက်တည်းမဟုတ်သော ဟဒီးဆ်ကိုခေါ်သည်။

مالم يتصل اسناده . على أى وجه كان انقطاعه

## (၄) المعلق

**المعلق** –ဟူသည် အိစ်မိမဖ်အူးလ် စာလုံးဖြစ်ပြီး၊ အဘိဓာန်အရ– တွဲလဲဆွဲထားသော ချိပ်ဆွဲခံရသော၊ မှီနိုထားသော၊ တွယ်ကပ်ထားသော၊ ချိပ်ထားသော ဟူ၍ဖြစ်ပေ၏။

**اصطلاحا** –အရ 'အလ်မုအ်လတ်က်' ဟူသည် စနဒ်၏အစပိုင်းနေရာတွင်ရှိသော ရာဝီတစ်ဦး(သို့မဟုတ်) ရာဝီအများကို တဆက်တည်းဖြုတ်ထားသော ဟဒီးဆ်ကိုခေါ်သည်။ (နောက်တစ်နည်း) စနဒ်၏ ရာဝီအားလုံးကိုဖြုတ်ပြီး ဟဒီးဆ်ကို တမန်တော်မြတ်ဘက်သို့ ဆက်စပ်ပြောကြားခြင်း၊ (သို့တည်းမဟုတ်) ဆွဟာဗီ (သို့) ဆွဟာဗီနှင့် သာဗေ့အီတို့ကိုချန်ထားပြီး ယင်းတို့၏အမည်နာမဖြင့် တမန်တော်မြတ်ဘက်သို့ ဆက်စပ်ပြောကြားသော ဟဒီးဆ်ကိုခေါ်သည်။
ဥပမာ– မစ်ရှ်ကားသ်ကျမ်းတွင်ပါရှိသော ဟဒီးဆ်များ–

ماحذف من مبدأ اسناده او فاكثر على التوالى

ان يحذف جميع السند ثم يقال مثلا - قال رسول الله ﷺ : كذا......)

و منها أن يحذف كل الاسناد الا الصحابى أو الا الصحابى و التابعى

## (၅) المعضل

**المعضل** –'အလ်မုအ်ဿွလ်' ဟူသည် အိစ်မိမဖ့်အူးလ်စာလုံးဖြစ်ပြီး၊ အဘိဓာန်အရ– ခက်ခဲသော၊ နက်နဲသော၊ ပင်ပန်းနွမ်းလျှသော ဟူ၍ဖြစ်ပေ၏။

**اصطلاحا** –အရ 'မုအ်ဿွလ်'ဟူသည် စနဒ်တွင်ရာဝီနှစ်ဦး (သို့) ရာဝီနှစ်ဦးထက်များစွာ တဆက်တည်းပြုတ်ကျနေသော ဟဒီးဆ်ကိုခေါ်သည်။ ဤသည်တွင် 'မုအ်ဿွလ်' နှင့် 'မုအ်လပ်က်' သည် တစ်မျိုးတည်းဖြစ်နေပေ၏။
အကယ်၍ စနဒ်၏ကြားအလယ်တွင် ရာဝီနှစ်ဦးတဆက်တည်း ဖြုတ်ထားသည်ဖြစ်လျှင် ဤသည် 'မုအ်ဿွလ်' ဖြစ်ပေ၏၊ မုအ်လပ်က်မဟုတ်ပါ။
အကယ်၍ စနဒ်၏အစတွင် ရာဝီအဖြုတ်ခံရသည်ဖြစ်လျှင် ဤသည် 'မုအ်လပ်က်' ဖြစ်ပေ၏။ မုအ်ဿွလ်မဟုတ်ပါ။

اذا حذف من وسط الاسنادر او يان متو اليان - فهو معضل وليسى بمعلق

اذا حذف من مبدأ الاسنادر او فقط فهو معلق وليس بمعضل

## المرسل (၆)

**المرسل** –ဟူသည် အိစ်မိမဖ့်အူးလ် စာလုံးဖြစ်ပြီး အဘိဓာန်အရ– စေလွှတ်ခံရသူ စေတမန်၊ သာသနာရေးနှင့်စပ်လျဉ်း၍စေလွှတ်ခံရသူ၊ လွှတ်ထားခြင်းခံရသူ ဟူ၍ ဖြစ်ပေ၏။

**اصطلاحا** –အရ 'မုရ်စလ်' ဟူသည် 'သာဗေ့အီ' ၏အလျင်၊ စနဒ်၏နောက်ဆုံးနေရာတွင် ရှိသောရာဝီကို မဖော်ပြပဲ လွှတ်ထားသောဟဒီးဆ်ကိုခေါ်သည်။ ဆိုလိုသည်က သာဗေ့အီကိုဖြစ်ဖြစ် မဖော်ပြသောဟဒီးဆ်ကိုခေါ်သည်။ ဥပမာ– သာဗေ့အီက ဆွဟာဗီကိုမဖော်ပြပဲ တမန်တော်မြတ်ﷺက ဤသို့မိန့်တော်မူပါသည်၊ ဤသို့ ပြုတော်မူပါသည်၊ တမန်တော်မြတ်ﷺ၏ရှေ့တော်တွင် ဤသို့ပြုပါသည် ဟူ၍ ပြောသောဟဒီးဆ်ကို 'မုဟဒ်ဒိဆ်' ပညာရှင်များက 'မုရ်စလ်' ဟုခေါ်သည်။ ဤသည် ဟနဖီများထံ၌ 'မတ်က်ဗူးလ်' (လက်ခံခြင်းခံရသော) ဟဒီးဆ်ဖြစ်၏။ အဘယ့်ကြောင့်ဆိုသော ဆွဟာဗီများအားလုံးသည် 'အာဒိလ်'များဖြစ်သောကြောင့်တည်း။

هو ما سقط من آخر اسناده من بعد التابعى -

أن يقول التابعى قال رسول الله ﷺ كذا - أو فعل كذا -

أو فعل بحضرته كذا - وهذه صورة المرسل عند المحدثين

## (၇) المدلس

**المدلس** –ဟူသည် **تدليس** ပုဒ်မှဆင်းသက်ဖြစ်ပေါ်လာသော အိစ်မိမဖ့်အူးလ် ဖြစ်ပြီး၊ အဘိဓာန်အရ– လိမ်လည်ခြင်းခံရသောသူ၊ ကောက်ကျစ်ခြင်းခံရသောသူ၊ လှည့်ဖြားခံရသူ၊ အမှောင်ချထားသောသူ ဟူ၍ ဖြစ်ပေ၏။

**اصطلاحا** –အရ 'မုဒလ်လပ်စ်' ဟူသည်အပေါ်ယံအားဖြင့် တင့်တယ်စေလျက်၊ စနဒ်ဖော်ပြရာ၌ ပြစ်ချက်ကိုဖုံးအုပ်ထားသော ဟဒီးဆ်ကိုခေါ်သည်။ ဆိုလိုသည်က ရာဝီသည် မိမိ၏ဆရာအမည်ကိုမဖော်ပြပဲ၊ ဆရာ့ဆရာ၏အမည်ကိုလည်းကောင်း၊ ဆရာ့ဆရာ၏အထက်ရှိ ရာဝီ၏အမည်ကိုလည်းကောင်း ဆွဲကိုင်သုံးနှုန်းပြောကြားခြင်း၊ ယင်းသို့ပြောကြားရာတွင်လည်း သူကိုယ်တိုင် ထိုပုဂ္ဂိုလ်တို့ထံမှ ကြားသိခဲ့သယောင်ယောင်ဖြင့် ပြောပြသောဟဒီးဆ်ကိုခေါ်သည်။ (တစ်နည်း) ဆရာ (သို့) ဆရာ့ဆရာ၏အမည်ကို ထုတ်ဖော်ခြင်းမပြုပဲ ဖုံးအုပ်ထားသော ဟဒီးဆ်ကိုခေါ်သည်။

اخفاء عيب في الاسناد - و تحسين لظاهره

### ✿ ခဗရိုဝါဟစ်ဒ်၏ ပဉ္စမ အမျိုးအစား ✿

'ခဗရိုဝါဟစ်ဒ်' သည် ရာဝီများ၏ပြောပြသောပုံစံကို ထောက်ရှုခြင်းဖြင့် နှစ်မျိုးရှိပေ၏။

၎င်းနှစ်မျိုးမှာ–

(၁) المعنعن

(၂) المسلسل

## (၁) المعنعن

**المعنعن** –'အလ်မုအန်အန်' ဟူသည် အိစ်မိမဖ့်အူးလ် စာလုံးဖြစ်ပြီး၊ အဘိဓာန်အရ– **عن - عن** (မှ–မှ)ဟူ၍ဖြစ်၏။

**اصطلاحا** –အရ ရာဝီက မည်သူ့(ထံ)မှ ကြားသိခြင်းဖြစ်သည် ဟူ၍ဖြစ်ပေသည်။

اصطلاحا ـ قول الراوى : فلان عن فلان

## (၂) المسلسل

**المسلسل** –ဟူသည် အိစ်မိမဖ့်အူးလ် စာလုံးဖြစ်ပြီး၊ အဘိဓာန်အရ– ခိုင်ခံ့စွာဆက်သွယ်ခြင်းခံရသော၊ သံကွင်းဆက်များ၊ သံကြိုးတစ်ခုနှင့်တစ်ခု ကွင်းများဖြင့်ဆက်ခံရသော ဟူ၍ဖြစ်ပေသည်။

**اصطلاحا** –အရ **المسلسل** ဟူသည် အကြင်စနဒ်တွင်ရှိသော ရာဝီများ၏ပြောပြသော ပုံစံ(သို့) ရာဝီများ၏ အရည်အချင်း၊ အရည်အသွေးနှင့် အခြေအနေအရပ်ရပ်သည်တစ်မျိုးတည်းဖြစ်နေသော ဟဒီးဆ်ကိုခေါ်သည်။ ဥပမာ– ရာဝီက ကျွန်တော်ကြားခဲ့သည် (သို့) ကျွန်ုပ်တို့ကို ထိုသူက သတင်းစကားပြောပြသည် ဟူ၍ သုံးနှုန်းကြခြင်း (သို့) စနဒ်၏ရာဝီတိုင်း ရာဝီတိုင်း ဖုကဟ်ပညာရှင်ကြီးများချည်းဖြစ်နေလျှင် (သို့) တစ်မြို့တစ်နယ်တည်းသားများချည်းဖြစ်နေလျှင် (သို့) ရာဝီတိုင်းက လက်ဖြင့်ဆွဲကိုင်ခြင်းကို ထုတ်ဖော်ပြောပြကြသည်ချည်းဖြစ်နေလျှင်၊ ယင်းသို့သောဟဒီးဆ်ကိုခေါ်သည်။

المسلسل بصيغ الاداء ـ مثل حديث مسلسل يقول كل من رواته

(سمعت) أو (اخبرنا)

ဤတွင် ခဗရိဝါဟစ်ဒ်၏ အမျိုးအစား(၅)မျိုး ပြီးစီးပြီးဖြစ်သော်လည်း၊ **المعنعن** 'မုအန်အန်' နှင့် အလားတူသော **المؤنن** 'အလ်မုအန်နန်' ကိုလည်းရှင်းပြပါအံ့။

**المؤنن** –ဟူသည် **أنن** ဟူသောပုဒ်မှဆင်းသက်ပေါက်ဖွားလာသော အိစ်မိမဖ့်အူးလ် စာလုံးဖြစ်ပြီး၊ အဘိဓာန်အရ– ကေန်မုချ ဟူ၍ဖြစ်ပေ၏။
ဥပမာ– أَنَّ

**اصطلاحا** –အရ 'အလ်မုအန္နန်' ဟူသည်မှာ ရာဝီကကျွန်ုပ်ကို မည်သူမည်ဝါပုဂ္ဂိုလ်က မုချကေန် မည်သို့ပြောပါသည် ဟူ၍ أَنَّ ပါသောဟဒီးဆ်ကိုခေါ်သည်။

اصطلاحا - هو قول الراوى - حدثنافلان أن فلاناقال

ЖОЖОЖОЖОЖОЖ

## အခန်း(၇)

## اقسام التواتر

## تواتر ၏အမျိုးအစားများအကြောင်း

**تواتر** 'သဝါသုရ်' လေးမျိုးရှိပေ၏–

(၁) تواتر حديث - تواتر اسناد -တွ ါတုရ် - သဝါသို့ရီ အစ်(စ)နားဒ် (သို့) သဝါသို့ရီ ဟဒီးဆ်
(၂) تواتر قران - تواتر طبقة - သဝါသို့ရီ ဿဗ်ကဟ်(သို့) သဝါသို့ရီ ကုရ္ရာန်
(၃) تواتر معنوى - تواتر قدر مشترك -သဝါသို့ရီ ကဒ်ရိမ္မုတ်ရှ်သရပ်က်(သို့) သဝါသို့ရီ မအ်နဝီ
(၄) تواتر توارث - تواتر تعامل -သဝါသို့ရီ သအာမုလ် (သို့) သဝါသို့ရီ သဝါရုဆ်

## (၁) ``တဝါတုရ်အသ်နာဒ်``

**တဝါတုရ်အသ်နာဒ်** -ဟူသည် စနဒ်၏အစမှအဆုံးအထိ ခေတ်တိုင်းခေတ်တိုင်းတွင် ရိဝါယသ်ပြုသော ရာဝီအရေအတွက်မည်မျှများပြားသည်ဆိုသော် ၎င်းတို့အားလုံးမှသားပြောခြင်းပေါ်တွင် ညီညွတ်နေကြသည်ဖြစ်မည်ဟုပင် ထင်မှတ်၍မရနိုင်အောင်ပင် များပြားပေ၏။ (အစပိုင်းတွင် အကျယ်တဝင့်ဖော်ပြခဲ့ပြီး)

ဥပမာ- ဤဟဒီးဆ်တော်-

من كذب علی متعمدا فليتبوأ مقعده من النار

အထက်ပါ ဟဒီးဆ်တော်နှင့်စပ်လျဉ်း၍ အဗူအမ်ရ်ဗင်န် ဆွလားဟ် က ဤဟဒီးဆ်တော်ကို ဆွဟာဗီသာ၀ကကြီး(၆၂)ပါးက ရိဝါယသ်ပြုခဲ့ကြသည်။ ယင်းတို့ထဲတွင် အရှရဟ်မုဗတ်ရှ်ရှရဟ် များလည်းပါဝင်ပေသည်။ အရှရဟ်မုဗတ်ရှ်ရှရဟ်သည် ဤဟဒီးဆ်ဩဝါဒတော်မှအပ အခြားမည်သည့်ဩဝါဒတော်၌မျှ ရိဝါယသ်အရဖြစ်စေ၊ နကလ်အရဖြစ်စေ တညီတညွတ်တည်း ပါဝင်ခဲ့ကြခြင်းမရှိခဲ့ပါဟု မိန့်၏။

ရှရဟ်မွတ်စ်လင်မ်ကျမ်းတွင်အေမာမ်နဝဝီ(ရဟ်)သခင်က ဤဩဝါဒတော်အားပြောပြသူ ရာဝီ(၂၀၀) နှစ်ရာခန့်ရှိသည်ဟု မိန့်၏။ အလ်လာမဟ် အီရာကီ(ရဟ်)သခင်က ဤဩဝါဒတော်အား ဤဖော်ပြပါစာသားအတိုင်း သီးသန့်ရိဝါယသ်ပြုသူ ရာဝီ(၇၀)ခုနစ်ဆယ်ကျော်ကျော်ရှိသည်ဟုမိန့်၏။

ဤဩဝါဒတော်၏အကြောင်းအရာနှင့်စပ်လျဉ်း၍ ရိဝါယသ်ပြုသူ(၂၀၀)နှစ်ရာ ရှိပေသည်ဟူ၍ အတည်ပြုလိုက်ပါမူ အစ်ဗ်နဆွလားဟ်နှင့် အေမာမ်နဝဝီ တို့နှစ်ဦးစလုံး၏ အဆိုပြုချက်သည်လည်း ကိုက်ညီသွားပေမည်တည်း။

ဤသည့်အလားတူစွာပင် ခသ်မိနုဗွဝသ်၏ ဟဒီးဆ်ဩဝါဒတော်များသည်လည်း တစ်ရာငါးဆယ်(၁၅၀)ကျော်ကျော် ရှိပေသည်။ ယင်းတို့အနက်မှ ဩဝါဒတော်(၃၀)ခန့် ဆိွဟ်ဟားဟ်စစ်သဟ် ကျမ်းကြီး(၆)ကျမ်းတွင် ဖော်ပြပါရှိပေ၏။

## (၂) تواترطبقة

**تواترطبقة** –ဟူသည်မှာ စနဒ်ကိုသီးသန့် သတ်မှတ်ဖော်ပြထားခြင်းမဟုတ်ပဲ၊ တစ်ခေတ်ပြီးတစ်ခေတ် အုပ်စုကြီးတစ်ခုမှတစ်ခုသို့ အစဉ်အဆက်၊ ဆက်လက်ဆင့်ပြန်လာခဲ့ကြသည်ဖြစ်ရာ၊ ယင်းနှင့်စပ်လျဉ်း၍ မည်သူတစ်ဦးကမျှပင် မုသားဟူ၍ အနည်းငယ်စိုးစဉ့်မျှမထင်မှတ်ရလောက်အောင်များပြားလွန်းသော အုပ်စုကြီး၏ရိဝါယသ်ပြုချက်(သို့)နကလ် အဆင့်ဆင့်လက်ဆင့်ကမ်းကူးပြောင်းလာခဲ့ခြင်းဖြစ်ပေ၏။ ဥပမာ– ကုရ်အာန်ကျမ်းတော်မြတ်အား ရိဝါယသ်ပြုခြင်းနှင့် လက်ဆင့်ကမ်းကူးပြောင်းလာခဲ့ခြင်းတည်း။

## (၃) تواترمعنوى

**تواترمعنوى** –ဟူသည်မှာ တစ်စုံတစ်ခုသော အကြောင်းအရာအမျိုးမျိုးကို ခဗရိဝါဟစ်ဒ် အဆင့်မျိုးဖြင့် ဆင့်ပြန်ကြသည်ဖြစ်သော် ထိုအကြောင်းအရာပြောပြချက်များသည် 'မုသဝါသိရ်'ဖြစ်သည်ဟုပင် အဓိပ္ပာယ်သက်ရောက်နေသည်ဖြစ်လျှင် ဥပမာ– မုအ်ဂျေ့ဇာ တန်ခိုးတော်များနှင့်စပ်လျဉ်းသော ဟဒီးဆ်တော်များတွင် မြောက်များစွာသော အကြောင်းအရာများကို ဖော်ပြထားပေသည်။ ယင်းအကြောင်း ရာများထဲမှ အကြောင်းအရာတစ်ခုတိုင်းတစ်ခုတိုင်းသည် သဝါသို့ရ်၏အဆင့်သို့မရောက်ရှိသော်လည်း ထိုပြောပြချက် အကြောင်းအရာများမှ တမန်တော်မြတ်၏ သဘာဝနှင့်ဆန့်ကျင်သောထူးခြား ဆန်းကြယ်သောတန်ခိုးတော်များပေါ်ပေါက်ဖြစ်ထွန်းလာသည်ကိုငင်းတို့၏ဆင်တူယိုးမှား အဓိပ္ပာယ်သက်ရောက်နေသော ပြောပြချက်များဖြင့် အတည်ဖြစ်ကြောင်းသိရှိရခြင်းဟူ၍ဖြစ်ပေ၏။

## (၄) تواترتعامل

**تواترتعامل** –ဟူသည်မှာ တမန်တော်မြတ်ﷺ၏ လက်ထက်မှ(ခေတ်မှ) ယနေ့ခေတ်အထိ ခေတ်တိုင်းခေတ်တိုင်းတွင် 'အမလ်' လက်တွေ့လုပ်ဆောင်ခဲ့ကြသူများ၏ မြောက်များစွာသော အရေအတွက်သည်၊ အကြောင်းအရာတစ်ခုအား မိမိတို့၏ 'အမလ်' လက်တွေ့ပြုမှုလုပ်ဆောင်ချက်များဖြင့် ထိန်းသိမ်းလာခဲ့ကြသည်ကို

ကြည့်ရှုခြင်းဖြင့် ဤမှုများပြားသောလူတို့၏ ဤသည့်လုပ်ဆောင်ချက်သည် တမန်တော်မြတ်၏ သင်ပြပေးခဲ့ခြင်းသာလျှင်ဖြစ်ရပေမည်ဟုသာ ဓမ္မဗိဋ္ဌာန် ကျကျ ဆုံးဖြတ်ပေမည်တည်း။

ဥပမာ–နမားဇ်ငါးကြိမ် ဝတ်ပြုပုံဝတ်ပြုနည်း၊ မိစ်ဝါးက် စွန္နသ်ဖြစ်ခြင်း၊ အဇာန် ဆိုသောနည်းနာ၊ နမားဇ်၏ ရကအသ်အရေအတွက်စသည်များဟူ၍ဖြစ်ပေ၏။

✕◦◇◦✕◦◇◦✕◦◇◦✕◦◇◦✕◦◇◦✕◦◇◦✕

## အခန်း(၈)

## الحديث القدسى

## အလ်ဟဒီးဆုလ်ကွတ်ဒ္ဒစီ အကြောင်း

**الحديث القدسى** –'ကွတ်ဒ္ဒစီ' ဟူသည် **القدس** ဟူသောပုဒ်နှင့် ဆက်သွယ်ပေးသော–ယာ(ی) အက္ခရာပေါင်းစပ်ထားခြင်းဖြစ်ပြီး၊ အဘိဓာန်အရ– သန့်ရှင်းစင်ကြယ်ခြင်း၊ မင်္ဂလာအပေါင်းခညောင်းခြင်း ဟူ၍ဖြစ်ပေ၏။ ဆိုလိုသည်က– မြင့်မြတ်တော် မူသော အပြစ်အနာအဆာချို့တဲ့ခြင်းအပေါင်းမှ သန့်ရှင်းစင်ကြယ်တော်မူသော အလ္လာဟ်အရှင်မြတ်ဘက်တော်သို့ ဆက်စပ်၍ပြောကြားသော ဟဒီးဆ်တော် ကိုခေါ်သည်။

**اصطلاحا** –အရ 'ဟဒီးဆ်ကွတ်ဒ္ဒစီ' ဟူသည် အလ္လာဟ်အရှင်မြတ်အား စနဒ်ဖော်ပြကိုး ကားချက်တွင် ထည့်သွင်းဖော်ပြလျက်၊ တမန်တော်မြတ်ထံမှတစ်ဆင့် ကျွန်ပ် တို့ထံသို့ အဆင့်ဆင့်ပြောပြချက်များဖြင့် ရောက်ရှိလာသော ဟဒီးဆ်ကိုခေါ်ဝေါ် ၏။

هو ما نقل الينا عن النبى ﷺ مع اسناده اياه الى ربه عز و جل

ကုရ်အာန်ကျမ်းတော်မြတ်နှင့် ဤဟဒီးဆ်ဩဝါဒတော်၏ ခြားနားချက်များ မြောက်များစွာရှိပေ၏။ ယင်းတို့အနက် အထူးကျော်ကြားသော အချက်(၃)သုံးချက်မှာ-

(၁) ကျမ်းမြတ်ကုရ်အာန်၏ အက္ခရာစာလုံးများနှင့် အဓိပ္ပာယ်သည် အလ္လာဟ်အရှင်မြတ်ဘက်တော်မှဖြစ်ပေသည်။ ဟဒီးဆ်ကွတ်ဒ္ဒစီ၏ အဓိပ္ပာယ်သဘောတရားသည် အလ္လာဟ်ဘက်တော်မှဖြစ်ပြီး၊ အက္ခရာစာလုံးများသည် တမန်တော်မြတ်ဘက်တော်မှဖြစ်ပေ၏။

ان القر ان لفظه و معناه عن الله تعلى : و الحديث القدسى معناه من الله

و لفظه من عند النبى ﷺ

(၂) ကျမ်းမြတ်ကုရ်အာန်ကို ရွတ်ဖတ်ခြင်း(သေလာဝသ်လုပ်ခြင်း)သည် 'အေဗာဒသ်' ဖြစ်ပေ၏။ ဟဒီးဆ်ကွတ်ဒ္ဒစီကို သေလာဝသ် ရွတ်ဖတ်ခြင်းသည် 'အေဗာဒသ်' မဟုတ်ပါ။

و القر ان يتعبد بتلاو ته - و الحديث القدسى لا يتعبد بتلاو ته

(၃) ကျမ်းမြတ်ကုရ်အာန်ဖြစ်ကြောင်း အတည်ပြုရန် 'သဝါသိုရ်'သည် ရှိရသွ် ဖြစ်၏ ဟဒီးဆ်ကွတ်ဒ္ဒစီတွင် 'သဝါသိုရ်' သည် ရှိရဟ် မဟုတ်ပါ။

القر ان يشترط فى ثبو ته التو اتر : و الحديث القدسى لا يشترط فى ثبو ته التو اتر

ဟဒီးဆ်ကွတ်ဒ္ဒစီသည် ဟဒီးဆ်နဗဝီ၏ အရေအတွက်နှင့်နှိုင်းဆလျှင် မများလှပါ။ ၎င်း၏အရေအတွက်သည် ဟဒီးဆ်နစ်ရာ(၂၀၀)ကျော်ကျော်မျှသာ ရှိပေသည်။

## خبرالآحاد

**خبرالآحاد** –သည်ရာဝီများ၏ အားနည်းချက်၊ အားသာချက်ကိုအခြေခံ၍ **مقبول** 'မတ်က်ဗူးလ်' နှင့် **مردود** 'မရ်ဒူးဒ်' ဟူ၍နှစ်ပိုင်းရှိပေ၏။

အောက်ပါတို့သည်လည်း 'မတ်က်ဗူးလ်' အုပ်စုဝင်များဖြစ်ကြပေ၏။ ၎င်းတို့မှာ–

(၁) المحكم အလ်မုဟ်ကမ်
(၂) مختلف الحديث မွတ်ခ်သလိဖွလ်ဟဒီးဆ်
(၃) الناسخ والمنسوخ အန်းနားစိခ်ဝလ်မန်စူးခ်
(၄) الترجيح والتوقف အသ်သရ်ဂျီးဟ်ဝသ်သဝပ်က်ကုဖ်

–ဟူ၍ဖြစ်ကြသည်။

**مقبول** –ဟူသည်မှာ ရိဝါယသ်ပြုသူ၏ ရိဝါယသ်ကို မှန်ကန်ကြောင်း သရ်ဂျီးဟ် (အသာစီးပေးထားခြင်း၊ အလေးပေးထားခြင်း) အသာပေးလက်ခံထားခြင်းကို ခေါ်သည်။ သူနှင့်စပ်လျဉ်းသောအမိန့်သည်၊ ယင်းဟဒီးဆ်ဖြင့် အမလ်လုပ်ခြင်း နှင့် အထောက်အထားအကိုးအကားပြုခြင်း ဝါဂျစ်ဗ် ဖြစ်၏။

مقبول : وهو ما ترجح صدق المخبر به - وحكمه : وجوب الاحتجاج والعمل به

**مردود** –ဟူသည် ရဝါယသ်ပြုသူ၏ ရိဝါယသ်ကို မှန်ကန်ကြောင်းသရ်ဂျီးဟ် အသာစီး မပေးပဲ ပလပ်ဖယ်ရှားခံရခြင်းကိုခေါ်သည်။ သူနှင့်စပ်လျဉ်းသော အမိန့်သည် ယင်းဟဒီးဆ်ဖြင့် အမလ်လုပ်ခြင်းနှင့် အကိုးအကားပြုခြင်း ဝါဂျစ်ဗ်မဖြစ်ချေ။

مردود ـ وهومالم يترجح صدق المخبر به ـ وحكمه أنه لا يحتج به

ولا يجب العمل به

မတ်ကဘ်ူးလ်ဖြစ်သောအုပ်စုနှင့် မရ်ဒူးဒ်ဖြစ်သောအုပ်စုဝင်များအကြောင်းကို ဤသည်တွင် ဤမျှဖြင့်သာ အကျဉ်းချုံးရေးသားဖော်ပြအပ်ပါသည်။

## (၁) المحكم

**المحكم** –'အလ်မုဟ်ကမ်' ဟူသည် အိစ်မ်မဖ့်အူးလ် စာလုံးဖြစ်ပြီး၊ အဘိဓာန်အရ– ပြည့်စုံလုံလောက်စေခြင်းခံရသော၊ လိုလေသေးမရှိဖြစ်သော၊ ပြီးပြည့်စုံခြင်းခံရသော ဟူ၍ဖြစ်ပေ၏။

**اصطلاحا** –အရ 'မုဟ်ကမ်'ဟူသည် မတ်ကဘ်ူးလ်ဖြစ်သော ဟဒီးဆ်ကိုခေါ်သည်။ ယင်းဟဒီးဆ်နှင့် အလားတူဖြစ်သောဟဒီးဆ်က ယင်းဟဒီးဆ်ကိုယှဉ်ပြိုင်ဆန့်ကျင်ဘက်ပြုမှုမရှိသော ဟဒီးဆ်ကိုခေါ်သည်။

هو الحديث المقبول الذى سلم من معارضة مثله

## (၂) مختلف الحديث

**مختلف الحديث** –'မုတ်ခ်သလိဖ်' ဟူသည် အိစ်မ်ဖာအိလ် စာလုံးဖြစ်ပြီး၊ အဘိဓာန်အရ– ကွဲပြားလျက်ရှိသောသူ၊ ဆန့်ကျင်ဘက်ဖြစ်သောသူ၊ ညီညွတ်ခြင်းမရှိသော၊ တူညီခြင်းမရှိသောသူ ဟူ၍ဖြစ်ပေ၏။

**اصطلاحا** –အရ မိမိနှင့်အလားတူဖြစ်သော ဟဒီးဆ်မတ်က်ဗူးလ်နှင့် ယှဉ်ပြိုင်ဆန့်ကျင်လျက်ရှိသော ဟဒီးဆ်မတ်က်ဗူးလ်ကိုခေါ်သည်။ ယင်းဟဒီးဆ်နှစ်ခုစလုံးကို ညှိယူရန်ဖြစ်နိုင်ပေ၏။

هو الحديث المقبول المعارض بمثله مع امكان الجمع بينهما

## (၃) الناسخ والمنسوخ

**الناسخ والمنسوخ** –ဟူသည် အိစ်မိဖာအိလ်နှင့် အိစ်မိမဖ်အူးလ် စာလုံးတို့ဖြစ်ကြပေ၏။ အဘိဓာန်အရ– ဖယ်ရှားသူ ဖယ်ရှားခံရသူ၊ ပလပ်သူ ပလပ်ခံရသောသူ၊ ရွှေ့လျားစေသူ ရွှေ့လျားစေခြင်းခံရသူ ဟူ၍ဖြစ်ပေ၏။

**اصطلاحا** –အရ ရှရီအသ်ဥပဒေပြဋ္ဌာန်းသူက ယခင်ပထမကပြဋ္ဌာန်းချက်ကို ဒုတိယပြဋ္ဌာန်းချက်ဖြင့် ရုတ်သိမ်းလိုက်ခြင်းကိုခေါ်သည်။ အကယ်၍ ဟဒီးဆ်နှစ်ခုစလုံးသည် ခိုင်မာလျက်ရှိ၏။ တစ်ခုနှင့်တစ်ခုသည်လည်း ဆန့်ကျင်ဘက်ဖြစ်နေပြီး၊ ညှိယူရန်လည်း မဖြစ်နိုင်လျှင် ပထမဦးဆုံးအမိန့်သည် 'မန်စူးခ်' ဖြစ်ပေမည်။ နောက်ပိုင်း ဒုတိယအမိန့်သည် 'နာစစ်ခ်' ဖြစ်ပေမည်။

رفع الشارع حكما منه متقدما بحكم منه متأخر

## (၄) الترجيح والتوقف

**الترجيح والتوقف** –ဟူသည် အဘိဓာန်အရ– အသာစီးပေးခြင်းနှင့် ရပ်ဆိုင်းခြင်း ဟူ၍ဖြစ်ပေ၏။

**اصطلاحا** –အရ ခိုင်မာသောဟဒီးဆ်နှစ်ခုသည် တစ်ခုနှင့်တစ်ခု ဆန့်ကျင်လျက်ရှိနေပြီး၊ ညှိယူရန်လည်းမဖြစ်နိုင်၊ မည်သူသည်ရှေးဦး(ကနဦး)ဖြစ်သည်ကိုလည်း

မသိရှိနိုင်၊ သို့ဖြစ်လျှင် သရ်ဂျီးအ်လုပ်ရန်ဖြစ်နိုင်လျှင် သရ်ဂျီးအ်လုပ်၍အသာ ပေးရမည်၊ ဤသို့လည်းမဖြစ်နိုင်လျှင် သဝပ်ကဖ်ကုဖ်လုပ်၍ (ရပ်ဆိုင်း)ထားရ ပေလိမ့်မည်တည်း။

ꕤ✧ꕤ✧ꕤ✧ꕤ✧ꕤ✧ꕤ

## အခန်း(၉)

## أسباب الطعن فى الراوى

## ရိဝါယသ်ပြုသူနှင့်စပ်လျဉ်း၍ ဂုဏ်သရေပျက်စေသော အကြောင်းခံများ

ရာဝီအား ဂုဏ်သရေညှိုးနွမ်းစေသော အကြောင်းခံ(၁၀)ခုရှိပေသည်။ ထိုထဲမှ ငါး(၅)ခု သည် 'အဒါလသ်'(အာဒိလ်ဖြစ်ခြင်း)နှင့် စပ်လျဉ်းပေ၏။ ငါး(၅)ခုသည် 'သွဗ်သ္ဒ်'( ضبط ) နှင့် စပ်လျဉ်းလျက်ရှိပေ၏။

အဒါလသ်နှင့်စပ်လျဉ်းသော အချက်ငါး(၅)ချက်မှာ–

(၁) الكذب - အလ်ကိဇ်ဗု

(၂) التهمة بالكذب - အသ်သုဟ်မသု ဗိလ်ကိဇ်ဗို

(၃) الفسق - အလ်ဖိုစ်ကု

(၄) البدعة - အလ်ဗိဒ်အသု.

(၅) الجهالة - အလ်ဂျဟာလသု. –ဟူ၍ ဖြစ်ပေ၏။

သွစ်သွ်နှင့်စပ်လျဉ်းသော အချက်(၅) ငါးချက်မှာ–

(၆) فحش الغلط – ဖွိ့ဟ်ရွလ်ဂလသ္

(၇) سوء الحفظ – စူးအုလ်ဟိဖ္ဇ်

(၈) الغفلة – အလ်ဂဖ္လသ္.

(၉) كثرة الأوهام – ကပ်စ်ရသုလ်အောင်ဝ်ဟာမ်

(၁၀) مخالفة الثقات – မုခါလိဖသုဆ် ဆေ့ကားသ်

–ဟူ၍ ဖြစ်ပေ၏။

(၁) الكذب –ရာဝီသည် တမန်တော်မြတ်ဘက်သို့ဆက်စပ်၍ မဟုတ်မမှန်လုပ်ကြံဖန်တီးထားသော မုသားဟဒီးဆ်ကိုပြောခြင်း၊ ဤဟဒီးဆ်ကို 'မောင်ဝ်သူးအ်'ဟုခေါ်သည်။

(၂) التهمة بالكذب –ရာဝီသည် ရှရီအသ်နှင့်ဆန့်ကျင်သော ရိဝါယသ်ပြုခြင်း(သို့) အခြားသောကိစ္စရပ်များ၌ မုသားပြောသူဖြစ်ကြောင်း အတည်ဖြစ်နေခြင်း၊ ယင်းရာဝီ၏ ရိဝါယသ်ပြုသောဟဒီးဆ်ကို 'မသ်ရူးက်' ဟူ၍ခေါ်သည်။

(၃) الفسق –ရာဝီသည် ပြစ်မှုဒုစရိုက်ကျူးလွန်သူဖြစ်ခြင်း။

(၄) البدعة –ရာဝီသည် ဗိဒ်အသ် ပြုသူဖြစ်ခြင်း။

(၅) الجهالة –ရာဝီသည် သူ့အားပြောပြသောရာဝ်ကိုလည်းကောင်း၊ ယင်းရာဝီ၏အခြေအနေအရပ်ရပ်ကို မသိရှိခြင်း။

(၆) **فحش اللحن** –ရာဝီသည် ရိဝါယသ်ပြုရာတွင် အမှန်ထက်အမှားများနေခြင်း။

(၇) **سوء الحفظ** –ရာဝီသည် မှတ်သားဉာဏ်မကောင်းခြင်းကြောင့် ရိဝါယသ်ပြုရာတွင် အမှားအမှန်ညီမျှနေခြင်း (သို့မဟုတ်) အမှားများနေခြင်း။ ယင်းသို့ဖြစ်ရခြင်းသည် သူ၏ မွေးရာပါဖြစ်ခဲ့ပြီး သက်တမ်းတလျှောက်လုံးတွင်လည်း အမြဲဖြစ်နေခြင်း၊ ယင်းသူ၏ ရိဝါယသ်ကို 'ရှားဇ်' ဟူ၍ခေါ်သည်။ အကယ်၍ ယင်းသို့ဖြစ်ရခြင်းသည် အသက်အရွယ်ကြောင့်၊ မျက်စေ့အမြင်ကွယ်သွားခြင်းကြောင့်ဖြစ်လျှင် ယင်းဟဒီးဆ်ကို 'မွတ်ခ်သလိသ်' ဟုခေါ်သည်။

(၈) **الغفلة** –ရာဝီသည် ဟဒီးဆ်ကိုနာကြားရာ၌ ဂိုက်မြည်းအိပ်စက်နေခြင်း၊ သတိမမူခြင်း၊ ပေါ့ပေါ့ဆဆ လျစ်လျူရှုထားခြင်း စသည်များ များစွာဖြစ်ပေါ်ခြင်း။ အထက်တွင်ဖော်ပြခဲ့သော နံပါတ်(၃)၊ (၆) နှင့် ဤပြစ်ချက်ရှိသောရာဝီ၏ ဟဒီးဆ်ကို 'မွန်ကရ်' ဟုခေါ်သည်။

(၉) **كثرة الأوهام** –ရာဝီသည် ထင်ယောင်ထင်မှားဓဝေဇဝါဖြင့် စနဒ် (သို့မဟုတ်) မသန်တွင် အပြောင်းအလဲလုပ်ခြင်း။ ဤသို့သောရာဝီ၏ ဟဒီးဆ်ကို 'မုအလ်လလ်' ဟုခေါ်သည်။

(၁၀) **مخالفة الثقات** –ရာဝီသည် ဆေ့ကဟ်ရာဝီနှင့် ဆန့်ကျင်ဘက်ပြောကြားခြင်း။ ဤသည်နှင့် စပ်လျဉ်း၍ (၅)ငါးမျိုးရှိ၏။

(၁) အကယ်၍ ရာဝီသည် စနဒ်(သို့) စာသားတွင်ပြောင်းလဲခြင်း၊ ထည့်သွင်းဖော်ပြခြင်း၊ ယင်းသို့ထည့်သွင်းဖော်ပြခြင်းသည် မူရင်းနှင့် ခွဲခြား၍မရနိုင်အောင်ဖြစ်နေခြင်း။ ဤသည်ကို 'မွတ်ဒ်ရဂျ်' ဟုခေါ်သည်။

(၂) အကယ်၍ ရှေ့နောက်ရောက်ခြင်းနှင့်စပ်လျဉ်း၍ ဆန့်ကျင်ဘက်ဖြစ်နေလျှင် ဤသည်ကို 'မတ်က်လူးဗ်' ဟုခေါ်သည်။

(၃) အကယ်၍ ဆန့်ကျင်ဘက်ဖြစ်ရခြင်းသည် ရာဝီပိုမိုပါရှိနေခြင်းကြောင့်ဖြစ်လျှင် ဤသည်ကို 'အလ်မဇီးဒ်ဖီ မွတ်သ်သဆွေလိလ်အစာနီးဒ်' ဟုခေါ်သည်။

(၄) အကယ်၍ ရာဝီတစ်ဦးနေရာ၌ အခြားရာဝီတစ်ဦးဖြင့် ပြောင်းလဲ

ဖော်ပြခြင်းကြောင့် ဆန့်ကျင်ဘက်ဖြစ်နေရခြင်း (သို့မဟုတ်) 'မသန်' တွင် တစ်ခုနှင့်တစ်ခုအားပြိုင်မှုဖြစ်ပေါ်နေပြီး မည်သူကိုမျှအသာပေးရန် မဖြစ်နိုင်ခြင်း၊ ဤသည်ကို 'မွတ်သွဲသွရိဗ်' ဟုခေါ်သည်။

(၅) အကယ်၍ မူရင်းစကားအသွားအလာအတိုင်း တည်ရှိနေသော်လည်း စာလုံးအပြောင်းအလဲဖြစ်ခြင်းကြောင့်သာ ဆန့်ကျင်ဘက်ဖြစ်နေရခြင်းဖြစ်လျှင် ဤသည်ကို 'မုဆွဟ်ဟဖ့်' ဟုခေါ်သည်။ ဤသည့်အကြောင်းအရာများကို ဖော်ပြခဲ့ပြီးဖြစ်ပါသည်။

ယခုဖော်ပြခဲ့သော ပြစ်ချက်များရှိသောရာဝီ၏ ပြောပြသောဟဒီးဆ်သည် 'သွအီးဖ့်' ဖြစ်ပေ၏။ 'သွအီးဖ့်' ဖြစ်သောဟဒီးဆ်များအနက်မှ အဆိုးဆုံး သွအီးဖ့်သည် 'မောင်ဝ်သူးအ်' ဖြစ်ပေ၏။ ၎င်းနှင့် အဆင့်အတန်းနီးကပ်သောဟဒီးဆ်သည် 'မတ်သ်ရူးက်' ဟဒီးဆ်ဖြစ်၏။ ထို့နောက် 'မွန်ကရ်'၊ ထို့နောက် 'မုအလ်လလ်'၊ ထို့နောက် 'မွတ်ဒ်ရဂျ်'၊ ထို့နောက် 'မတ်က်လူးဗ်'၊ ထို့နောက် 'မွတ်သွဲသွရိဗ်' ဖြစ်သည်ဟု ဟာဖိဇ်အစ်ဗ်နုဟဂျရ် (ရဟ်)သခင်က အထက်ပါအတိုင်း အဆင့်အတန်းခွဲခြားထားပေ၏။

## အခန်း(၁၀)

# اصطلاحات فی کتابة الفاظ الأداء وغیرها

# စာလုံးများ(အတိုချုံး)ရေးသားပုံရေးသားနည်းနှင့် အခြားအသုံးအနှုန်းများအကြောင်း

ဟဒီးဆ်ကျမ်းကြီးများကို စီရင်ရေးသားကြသော ပုဂ္ဂိုလ်မွန်အများစုသည် အချို့စာလုံးများကို အကျဉ်းချုံး၍ရေးသားလေ့ရှိကြပေ၏။ ယင်းသို့ရေးသားသော သင်္ကေတအမှတ်အသားများကိုလည်း သိထားရန်လိုအပ်ပေ၏။ သို့ဖြစ်ရာ အသုံးအနှုန်းအချို့ကိုရေးသားဖော်ပြအပ်ပါသည်။

(၁) حَدَّثَنَا –'ဟဒ်ဒဆနာ' ကို တခါတရံအပြည့်ရေးသားဖော်ပြသည်လည်းရှိ၏ တခါတရံ အတိုကောက် ( ثنا )ဟုရေးသားပြီး၊ တခါတရံ( نا)ဤသို့ ရေးသားထားပေ၏။ ဖတ်ရာတွင် 'ဟဒ်ဒဆနာ' ဟုသာဖတ်ရမည်။

(၂) أَخْبَرَنَا –'အခ်ဗရနာ' ကို တခါတရံ (أنا) ဟူ၍လည်းကောင်း၊ တခါတရံ ( أرنا ) ဟူ၍လည်း အတိုကောက်ရေးသားထားပေ၏။

(၃) ح –အစ်နားဒ် တစ်ခုမှတစ်ခုသို့ ပြောင်းလဲသွားသည့်အခါတွင် ဤသို့ အမှတ်အသား( ح ) ရေးသားထားပေ၏။

(၄) بحزف كلمة قال –'ကားလ' စာလုံးကိုဖြုတ်ထားခြင်း။ တခါတရံ قال စာလုံးကို ရာဝီ ၏အမည်နာမကြားအလယ်တွင် ဖြုတ်ထားပေ၏။
ဥပမာ– قال ဖြုတ်၍ရေးထားပုံ–

حدّثنا عبد الله بن يوسف أخبرنا مالك

ထည့်သွင်ဖတ်ရန်(ဥပမာ) ( قال أخبرنا مالك)ဟုသာဖတ်ရမည်။

(၅) بحذف أنه –'အန်းနဟူ' ကိုဖြုတ်ထားခြင်း။ တခါတရံ စနဒ် ၏နောက်ဆုံးနေရာ၌( أنه ) ကိုရေးသားခြင်းမပြုပဲ ဖြုတ်ထား၏။ ဥပမာ–

عن أبى هريرة قال

ဖတ်ရှုတ်သူ ထည့်သွင်းဖတ်ရန် ဥပမာ–

(عن أبى هريرة أنه قال) ဟူ၍ဖတ်ရမည်။

(၆) سَمِعْتُ و حَدَّثَنِي -တပည့်ဖြစ်သူက ဆရာဖြစ်သူထံမှ မိမိတစ်ဦးတည်း နာကြားသင်ယူခဲ့သည်ဖြစ်လျှင် ဤသို့သုံးနှုန်း၏။

(၇) سمعنا و حدّثنا -တပည့်များက ဆရာထံမှ သင်ယူနာကြားခဲ့ရသည်ဖြစ်လျှင် ဤသို့သုံးနှုန်း၏။

(၈) أخبرنى -ဆရာဖြစ်သူကို လူတစ်ဦးတည်းက ဟဒီးဆ်ရွတ်ဖတ်ပြသည်ဖြစ်လျှင် ဤသို့သုံးနှုန်း၏။

(၉) أخبرنا -ပုဂ္ဂိုလ်အချို့ထဲမှ တစ်ဦးက ဆရာဖြစ်သူ၏ရှေ့တော်၌ ဟဒီးဆ်ရွတ်ဖတ်ပြီး ကျန်သောပုဂ္ဂိုလ်များက နာကြားသည်ဖြစ်လျှင် ဤသို့သုံးနှုန်း၏။

(၁၀) أَنْبَأَنَا -ဆရာဖြစ်သူက မိမိကျမ်းကို တပည့်ဖြစ်သူအားပေး၍ဖြစ်စေ (သို့) ကျမ်း၏ အစပိုင်းကိုဖတ်ရွတ်ခိုင်းပြီး ခွင့်ပြုလိုက်သည်ဖြစ်လျှင် ဤသို့သုံးနှုန်း၏။ တခါတရံ ဤသည်ကို အတိုကောက် (نبا) ဟု ရေးသားကြပေ၏။

صحاحستہ -'ဆွိဟ်ဟားဟ်စိသ်သဟ်' ဟူသည် ကျမ်းကြီး(၆)ကျမ်းကိုခေါ်သည်။ ၎င်းတို့မှာ-

(၁) ဗုခါရီကျမ်း
(၂) မွတ်စ်လင်မ်ကျမ်း
(၃) သိရ်မိဇီကျမ်း
(၄) အဗူဒါဝူးဒ်ကျမ်း
(၅) နစာအီကျမ်း
(၆) အစ်ဗ်နုမာဂျဟ်ကျမ်း -တို့ဖြစ်ပါသည်။

အထက်ပါကျမ်းကြီးခြောက်စောင်ကို ပြုစုခဲ့ကြသော ကျမ်းရှင်ကြီးများ၏ အမည်နာမများ မွေးဖွားသော ခုနှစ်သက္ကရာဇ်နှင့် ကွယ်လွန်သော ခုနှစ်သက္ကရာဇ်တို့ကို အောက်တွင်ရေးသားဖော်ပြအပ်ပါသည်။

၎င်းတို့၏အမည်နာမများမှာ–

| | | မွေးဖွားသော ဟစ်ဂျ်ရီသက္ကရာဇ် | | ကွယ်လွန်သော ဟစ်ဂျ်ရီသက္ကရာဇ် |
|---|---|---|---|---|
| (၁) | محمد بن اسماعيل البخارى – | ၁၉၄ | – | ၂၅၆ |
| (၂) | مسلم بن الحجاج النيسابورى – | ၂၀၄ | – | ၂၆၁ |
| (၃) | ابو داوٗد السجستانى – | ၂၀၂ | – | ၂၇၅ |
| (၄) | ابو عيسىٰ الترمذى – | ၂၀၉ | – | ၂၇၉ |
| (၅) | احمد بن شعيب النسائى – | ၂၁၄ | – | ၃၀၃ |
| (၆) | ابن ماجه القزوينى – | ၂၀၇ | – | ၂၇၅ |

မှတ်ချက်။　　။ သိရ်မိဇီကျမ်းရှင်၏ မွေးဖွားသောသက္ကရာဇ်နှင့်စပ်လျဉ်း၍ အဆိုအနည်းငယ်ကွဲပြား၏။ မုသအခ်ခ္ခေရီးန် ပညာရှင်ကြီးအချို့က ဟစ်ဂျ်ရီသက္ကရာဇ် (၂၀၉) ခုနှစ်ဟူ၍ ထုတ်ဖော်ပြောကြား၏။

ဤသည်နှင့်ဆက်စပ်လျက်ရှိခြင်းကြောင့် မဇ်ဟဗ်ရှင်ကြီး လေးပါး၏ မွေးသက္ကရာဇ်နှင့် အမည်နာမတို့ကို ဆက်လက်ရေးသားဖော်ပြအပ်ပါသည်။

| | | မွေးဖွားသော ဟစ်ဂျ်ရီသက္ကရာဇ် | | ကွယ်လွန်သော ဟစ်ဂျ်ရီသက္ကရာဇ် |
|---|---|---|---|---|
| (၁) النعمان بن ثابت (ابو حنيفة) | - | ၈၀ | - | ၁၅၀ |
| (၂) مالك بن أنس | - | ၉၃ | - | ၁၇၉ |
| (၃) محمد بن ادريس (الشافعى) | - | ၁၅၀ | - | ၂၀၄ |
| (၄) احمد بن حنبل | - | ၁၆၄ | - | ၂၄၁ |

مُتَّفَقٌ عليه –ဗုခါရီကျမ်းနှင့် မွတ်စ်လင်မ်ကျမ်းတို့ အဆိုညီသောဟဒီးဆ်ကိုခေါ်သည်။

صحيحين –'ဆွဟီဟိုင်းန်' ဗုခါရီကျမ်းနှင့် မွတ်စ်လင်မ်ကျမ်းတို့ကိုခေါ်ပါသည်။

سنن اربعه –'စုနနိအရ်ဗအဟ်' သိရ်မိဇီကျမ်း၊ အဗူဒါဝူးဒ်ကျမ်း၊ နစာအီကျမ်း၊ အစ်ဗနုမာဂျဟ်ကျမ်း တို့ကိုခေါ်ပါသည်။

ثنائيات –စနဒ် (ဆရာဆက်) နှစ်ဆက်သာရှိသော ဟဒီးဆ်ကိုခေါ်သည်။

ثلاثيات –စနဒ် (ဆရာဆက်) သုံးဆက်သာရှိသော ဟဒီးဆ်ကိုခေါ်သည်။

رُباعيات –စနဒ် (ဆရာဆက်) လေးဆက်ဖြင့် တမန်တော်မြတ်ထိ ဆက်နွယ်သောဟဒီးဆ်ကိုခေါ်သည်။

قرون ثلثه –'ကုရူးနိဆလားဆဟ်' – တမန်တော်မြတ်ﷺ၏ခေတ်၊ ဆွဟာဗိ သာ၀ကကြီးများ၏ခေတ်၊ သာဗေ့အီများ၏ခေတ်၊ သာဗေ့အို့သာဗေ့ အီးန်များ၏ခေတ် ကိုခေါ်သည်။ မုသကာဒ်ဒေ့မီးန် ပညာရှင်ကြီးများ က အောက်ပါအတိုင်း ခုနှစ်သက္ကရာဇ်များကို ခွဲခြားပြထားပေ၏။

قرن اول –တမန်တော်မြတ်ﷺပွင့်တော်မူသည်မှ ဟစ်ဂျ်ရီသက္ကရာဇ် –၁၁၀ ခုနှစ်အထိ –ဆွဟာဗီများခေတ်ဟုလည်းခေါ်သည်။

قرن ثانی –သာဗေ့အီများခေတ် ဟစ်ဂျ်ရီ–၁၁၀ မှ ဟစ်ဂျ်ရီ–၁၇၀ အထိကိုခေါ် သည်။

قرن ثالث –သာဗေ့အို့ သာဗေ့အီးန်များ၏ခေတ် ဟစ်ဂျ်ရီ–၁၇၀– မှ –၂၂၀ ဟစ်ဂျ်ရီသက္ကရာဇ် ကိုခေါ်သည်။
အလ်လာမဟ် ဇဟဗီက ဟစ်ဂျ်ရီ –၃၀၀– အထိဟု ပိုင်းခြား၏။

မှတ်ချက်။ ။ قرن 'ကရ်နွန်' ဟူသည် အရဗီစာပေဝေါဟာရအရ နှစ်ပေါင်း– –၁၀၀ ရှိသောခေတ်ကိုခေါ်သည်။ ရာစုနှစ်ကိုခေါ်သည်။

طَالِبُ الْحَدِيْثِ –ဟဒီးဆ်ပညာကို စတင်လေ့လာဆည်းပူးသင်ယူနေသူကိုခေါ်သည်။

اَلْمُحَدِّثُ –'အလ်မုဟဒ်ဒိဆ်' ရိဝါယသ်၊ ဒိရာယသ်၊ ရာဝီ၏ အခြေအနေများနှင့် ရိဝါယသ်များကို သိမြင်နိုင်သော၊ ပေါ်လွင်ထင်ရှားစေသော၊ ဟဒီးဆ် ပညာသင်ပြပေးနေသော ဆရာတော်ကိုခေါ်သည်။

حَافِظُ الحديث –ဟဒီးဆ်တော်ပေါင်း 'တစ်သိန်း' ကို စနဒ်အရ၊ မသန်အရ၊ မအ်နန် အရ၊ မထစ်မငေါ် အလွတ်ရရှိသော ဆရာတော်ကြီးကိုခေါ်သည်။
'ဟာဖေ့ဇုလ် ဟဒီးဆ်' သည် 'မုဟဒ်ဒိဆ်' ထက်အဆင့်ပိုမြင့်ပေ၏။

အေမာမ်အစ်ဗ်န ရှိဟားဗ်ဇုဟ်ရီသခင်က ဤကဲ့သို့ပုဂ္ဂိုလ်သည် နှစ်ပေါင်းလေးဆယ်တွင် တစ်ယောက် ပေါ်ထွန်းလာလေ့ရှိပေသည်ဟု မိန့်၏။

**الحجةفى الحديث** –'အလ်ဟုဂျ်ဂျသုဖီလ်ဟဒီးဆ်' – စနဒ်အရ၊ မသန်အရ၊ မအ်နန်အရ၊ ဟဒီးဆ်တော်ပေါင်း 'သုံးသိန်း' နှုတ်တိုက်အလွတ်ရရှိသော ဆရာတော်သခင်ကြီးကိုခေါ်သည်။
ဥပမာ– အေမာမ်ဗုခါရီသခင်၊ အလီဗင်န် မဒီနီသခင်၊ ယဟ်ယာဗင်န် မုအီးန်သခင်၊ အဗ္ဗဒုလ်လာဟ်ဗင်န် မုဗာရတ်ကသခင် စသူတို့ဖြစ်ကြပေ၏။ အေမာမ်အဗူယူစွတ်ဖ်သခင်သည် မောင်ဝ်သူးအ်ဖြစ်သော ဟဒီးဆ်သက်သက်ကို သုံးသိန်း အလွတ်ရရှိသည်ဖြစ်ရာ၊ ဆွဟီးဟ်ဖြစ်သော ဟဒီးဆ်ပေါင်းမည်မျှရရှိမည်ကို မှန်းဆကြည့်နိုင်ပေ၏။ ၎င်း၏ဆရာဖြစ်သော အေမာမ်အအ်ဇွမ် အဗူဟနီဖဟ်သခင်သည် ဟဒီးဆ်တော်ပေါင်း မည်မျှအလွတ်ရရှိနေပေမည်နည်း။

**الحاكم فى الحديث** –တွေ့မြင်သိရှိ နာကြားရသော ဟဒီးဆ်တော်အားလုံးကို စနဒ်အရ၊ မသန်အရ၊ ပြစ်ချက်ရှိသော မရှိသောစသည့် အလုံးစုံကို အလွတ်ရရှိရုံမက ရာဝီများ၏အခြေအနေအရပ်ရပ်ကိုပါ ခရေစေ့တွင်းကျ အလွတ်ရရှိပေ၏။
ဥပမာ– အေမာမ်အဟ်မဒ်ဗင်န် ဟန်ဗလ်သခင်သည် ဟဒီးဆ်ဩဝါဒတော် 'ခုနစ်သိန်း' ကျော်ကျော် အလွတ်(အာဂုံ) ရရှိပေ၏။ အေမာမ်အဗူဇုရ်အဟ် ရာဇီ သခင်သည်လည်း ဟဒီးဆ် 'ခုနစ်သိန်း' (အာဂုံ) အလွတ်ရရှိပေ၏။

✲✲✲

ကွန်ပျူတာစာစီ.........ရှားမင်းသိန်း (ခ) မုဟာရတ်ကလိမ်ရှားဟ်

သိန်းထက်..... ကား၊ ဆိုင်ကယ် တပိုပစ္စည်းရောင်းဝယ်ရေး
ကောင်မြင့်။
09 91007728 / 09 47131350

## ꩶꩶꩶ အခန်း(၁၁) ꩶꩶꩶ

## اقسام كتب الحديث

## ဟဒီးဆ်ကျမ်းများ၏ အမျိုးအစားများအကြောင်း

ဟဒီးဆ်ကျမ်းများ၏ စီစဉ်ဖွဲ့နွဲ့ထားသော စာဟန်ကိုအခြေခံ၍ ဟဒီးဆ်ကျမ်း(၁၁)မျိုး ရှိပေ၏။

ၚင်းတို့မှာ–

(၁) جامع ဂျာမေ့အ်

(၂) سنن စိုနနွန်

(၃) مسند မွတ်စနဒ်

(၄) معجم မုအ်ဂျမ်

(၅) جزء ဂျုတ်ဇ်အွန်

(၆) مفرد မွတ်ဖ့်ရဒ်

(၇) غريب ဂရီးဗ်

(၈) مستخرج မွတ်စ်သခ်ရဂ်ျ

(၉) مستدرك မွတ်စ်သဒ်ရတ်က်

(၁၀) رسالة ရိစာလဟ်

(၁၁) اربعين အရ်ဗအီးန် –ဟူ၍ ဖြစ်ကြပေ၏။

## (၁) الجامع

الجامع –ဟူသည် အောက်ပါအကြောင်းအရာ ရှစ်(၈)မျိုးနှင့်စပ်လျဉ်းသော ဟဒီးဆ် သြဝါဒတော်များဖြင့် စီစဉ်ဖွဲ့နွဲ့ရေးသားထားသော ကျမ်းကိုခေါ်သည်။

(၁) العقائد (၂) العبادات

(၃) المعاملات (၄) السير

(၅) المناقب (၆) الرقاق

(၇) الفتن (၈) أخبار يوم القيامة

ဥပမာ– ဂျာမေ့အ် ဗုခါရီကျမ်း၊ ဂျာမေ့အ် သိရ်မဇီကျမ်း တို့ဖြစ်၏။

## (၂) السنن

السنن –'အပ်စိုနနို' ဟူသည် အမိန့်ပညတ်ချက်ပိုင်းဆိုင်ရာ 'ဟဒီးဆ်' သြဝါဒတော်များကို ဖေ့ကဟ်ပညာရပ်ပိုင်းဆိုင်ရာ ခေါင်းစဉ်များအတိုင်း အခန်းများဖွဲ့စည်း၍ စီစဉ်ရေးသားထားသော ကျမ်းကိုခေါ်သည်။
ဥပမာ– စိုနနို အဗီဒါဝူးဒ်ကျမ်း၊ အစ်ဗ်နုမာဂျဟ်ကျမ်း၊ နစာအီကျမ်း၊ သိရ်မဇီကျမ်း။

## (၃) المسند

**المسند**

–'အလ်မွတ်စ်နဒ်' ဟူသည် အစ္စလာမ်ကိုအစောဆုံး (ဦးစွာ) လက်ခံယုံကြည်လာသော ဆွဟာဗီများ၏နာမည်စဉ်အတိုင်း စီစဉ်ရေးသားထားခြင်း (သို့မဟုတ်) အရဗီအက္ခရာဗျည်းများ အစဉ်လိုက်အတိုင်း ရေးသားထားခြင်း၊ အစ္စလာမ်ကို သက်ဝင်ယုံကြည်ခဲ့ကြခြင်းနှင့်စပ်လျဉ်း၍ အရင်ဦးသော ၊ နောက်ကျသော စသည့် အစီစဉ်အတိုင်းရေးသားဖွဲ့နွဲ့ထားသော ဟဒီးဆ်ကျမ်းကိုခေါ်သည်။
ဥပမာ– မွတ်စ်နဒ် အေမာမ်အဟ်မဒ်၊ မွတ်စ်နဒ် ဒါရိမီ။

## (၄) المعجم

**المعجم**

–'အလ်မုအ်ဂျမို့' ဟူသည် ဟဒီးဆ်ဩဝါဒတော်များကို ရေးသားပြုစုသော ကျမ်းပြုရှင်က မိမိ၏ဆရာသခင်များ အမည်နာမအက္ခရာစဉ်အတိုင်း ဖွဲ့စည်းရေးသားထားသော ကျမ်းကိုခေါ်သည်။
ဥပမာ– အလ်မုအ်ဂျမို့ လိသွ်သွိဗ်ရာနီ

## (၅) الجزء

**الجزء**

–'အလ်ဂျု့ဇ်အို့' ဟူသည် ရာဝီတစ်ဦးတည်းက ပြောကြားထားသော ရိဝါယသ်များကိုချည်း ရေးသားထားသော ကျမ်းငယ်ကိုခေါ်သည်။ (သို့တည်းမဟုတ်) အကြောင်းအရာတစ်ခုတည်းကိုသာ အခြေခံရေးသားထားသော ကျမ်းကိုခေါ်သည်။
ဥပမာ– 'ရဖ်အုလ်ယဒိုင်နိ်' လိလ်ဗုခါရီ၊ 'ဂျု့ဇ်အုလ်ကိရာအသ်' လိလ်ဗိုင်ယ်ဟကီ။

## (၆) المفرد

المفرد –'အလ်မွတ်ဖ့်ရဒ်' ဟူသည် ရာဝီတစ်ဦးတည်း၏ ရိဝါယသ်များကိုသာရေးသား ထားသောကျမ်းကိုခေါ်သည်။

ဥပမာ– အဗူဟိုရိုင်ယ်ရဟ် (သို့) အနတ်စ် (သို့) ဟိုဇိုင်ဖ့်ဟ်

## (၇) الغريب

الغريب –'အလ်ဂရီးဗ်' ဟူသည် မုဟဒ်ဒီးဆ်၏ ခွဲခြမ်းစိတ်ဖြာဖွင့်ဆိုရှင်းလင်းချက်များ ကို ရေးသားဖေါ်ညွှန်းထားသော၊ ယင်းဖွင့်ဆိုချက်များသည် ၎င်း၏ဆရာဖြစ်သူ ဘက်မှဖြစ်သော ကျမ်းကိုခေါ်သည်။

ဥပမာ– 'အလ်အိဖ့်ရားဒ်' ဒါရိုကွတ်သွ်နီ

## (၈) المستخرج

المستخرج –'အလ်မွတ်စ်သခ်ရဂျ်' ဟူသည် အခြားသောဟဒီးဆ်ကျမ်း၏ ပိုမိုနေသော စနဒ်များကို ခွဲထုတ်ရေးသားထားသော၊ ယင်းစနဒ်များသည် ကျမ်းပြုသူ၏ မူပိုင်ဖြစ်သော၊ ယင်းကျမ်းပြုစုသူသည် ထိုအခြားသောကျမ်းပြုရှင်နှင့် အထက် တွင်စနဒ် ဆက်တူညီသွားပေ၏။ ယင်းသို့ခွဲထုတ်ရေးသားခြင်းဖြင့် အခြား ကျမ်း၏ ရိဝါယသ်များကို ပိုမိုခိုင်မာကျစ်လစ်စေ၏။

ဥပမာ– မွတ်စ်သခ်ရဂျ် အဗီအိုဝါနာ အလာဆွဟီးဟ် မွတ်စ်လင်မ်

## (၉) المستدرك

المستدرك –'အလ်မွတ်စ်သပ်ဒ်ရတ်က်' ဟူသည် အခြားသောကျမ်း၏ စည်းကမ်းချက်များ အတိုင်း၊ ယင်းကျမ်း၏ လစ်လပ်ခဲ့သောဟဒီးဆ်များကို ထပ်မံဖြည့်စွက်ရေး သားဖေါ်ပြထားသောကျမ်းကိုခေါ်သည်။
ဥပမာ– မွတ်စ်သပ်ဒ်ရတ်က် ဟာကင်မ် အလတ်ဆ္ဂ်ဆွဟီးဟိုင်းန်

## (၁၀) الرسالة

الرسالة –'အရ်ရိစာလဟ်' ဟူသည် ရည်ရွယ်ချက်တစ်ခုတည်းဖြစ်သော ဟဒီးဆ်သြဝါဒ တော်များချည်းသက်သက် စုစည်းရေးသားဖေါ်ပြသောကျမ်းကိုခေါ်သည်။
ဥပမာ– ကေသာဗုလ်အဒဗိလ် မွတ်ဖ္ဂ်ရဒ် လိလ်ဗုခါရီ

## (၁၁) الاربعين

الاربعين –'အလ်အရ်ဗအီးန်' ဟူသည် ဟဒီးဆ်သြဝါဒတော်ပေါင်း (၄၀) လေးဆယ်ကို စုစည်းရေးသားထားသော ကျမ်းငယ်ကိုခေါ်သည်။ ယင်းသို့ရေးသားဖော်ပြကြ ခြင်းသည် အောက်ပါဟဒီးဆ်သြဝါဒတော်တွင် ဖော်ပြထားသော ဆဝါးဗ် (ကုသိုလ်) ရရှိရန်အတွက်ဖြစ်ပေ၏။

من حفظ على امتى اربعين حديثا فى امر دينها بعثه الله فقيها و كنت له يوم القيامة

شافعا و شيهدا - رواه البيهقى

ဥပမာ– အရ်ဗအီးန် လင့်န်နဝဝီ ဝလ်ဗိုင်ဟ်ဟကီ

ဤတွင် အလ္လာဟ်အရှင်မြတ်၏ ကျေးဇူးတော်အဟုန်ဖြင့်–အကျဉ်းသင်္ခေပ ကောင်းမွန်စွာ ရေးသားပြီးစီး၏။

စတင်ရေးသားသည့် နေ့စွဲ ............... ၁၂ . ၈ . ၂၀၀၀ –စနေနေ့ နံနက်

ပြီးစီးသည့် နေ့စွဲ .................... ၂၉ . ၈ . ၂၀၀၀ – အင်္ဂါနေ့ နေ့လည်

**အလ်မွတ်ကိရိ မောင်လာနာ ဟာဖိဇ် ကာရိ ဇိကိယ်ယိဒ် မုဟမ္မဒ်ရှားဟ် (ခ) တင်ထွေး**

အခန်း (၁၉)၊ ရန်ကုန်–မန္တလေးလမ်း၊ တောင်မြင့်၊ ပြည်ကြီးတံခွန်မြို့နယ်၊ မန္တလေးမြို့။

စာရေးသူ၏ နစပ်စ် မျိုးနွယ်အစဉ်အဆက်သည် တမန်တော်မြတ် ﷺ အထိ အောက်ပါအတိုင်းဖြစ်၏။

## سلسلة النسب

سیدمحمدشاہ بن سیدحسن شاہ بن سیدغلام علی شاہ بن سیدمحمدشاہ بن

سیدجو ایاشاہ بن سیدشیر شاہ بن سیدسیدشاہ بن سیدجعفر شاہ بن سیدپیر

کمال شاہ بن سیدشاہ جمال الدین شاہ بن سیدشاہ کمیر بن سیدشاہ محمد بن

سیدشاہ شمس بن سیدشیر علی شاہ بن سیدبھاؤ الدین بن سیدرکن الدین بن

سیدمیر ابجد بن سیدامام بن سیدعلی بن سیدعلاؤ الدین بن سیدجلال بن

سیدمنصور بن سیدنظام الدین بن سید حبیب اللہ بن سیدخلیل اللہ بن

سیدشمس الدین بن سیدعبد اللہ بن سیدنور اللہ بن سید اصحاب اللہ بن سید

کمال الدین بن سیدخسرو بن سیدعارف بن سید ابراہیم شیر ازی بن سید

ابو طاہر طاہری بن سیدحسین بن سیدعلی العارفین بن سیدمؤمن دیباج

بن سید امام جعفر صادق بن سید امام محمدباقر بن سید امام زین العابدین بن

سید امام حسین بن فاطمة الزہراء بنت رسول اللہ صلی اللہ علیہ وسلم

## ရေးသားထုတ်ဝေပြီးခဲ့သော ကျမ်းများ

(၁) مُجَوِّدُ الْقُرآن ( ပထမတွဲ )

(၂) مُجَوِّدُ الْقُرآن ( ဒုတိယတွဲ )

(၃) اِصْلَاحُ الْعَوَام

(၄) النَّاسِخُ وَالْمَنْسُوخ

(၅) لَيْلَةُ الْبَرَائَت

(၆) نَصِيحَةُ الصَّالِحِين ( ပထမတွဲ )

(၇) نَصِيحَةُ الصَّالِحِين ( ဒုတိယတွဲ-နိဂုံး )

(၈) فتاوی عالمگیری ( ပထမတွဲ )

(၉) فتاوی عالمگیری ( ဒုတိယတွဲ )

(၁၀) فتاوی عالمگیری ( တတိယတွဲ )

(၁၁) فتاوی عالمگیری ( စတုတ္ထတွဲ )

ကွန်ပျူတာစာစီ-ဒီဇိုင်း → ရှားမင်းသိန်း (ခ) မုဘာရတ်ကဲအလီရှားဟ်

သိန်းထက် (ကား ၊ ဆိုင်ကယ် အပိုပစ္စည်း ရောင်းဝယ်ရေး)

အခန်း(၁၉) ရန်ကုန်–မန္တလေးလမ်း ၊ တောင်မြင့် ၊ ပြည်ကြီးတံခွန်မြို့နယ် ၊ မန္တလေးမြို့။

09-91007728 , 09-47131350